Amata International Co., Ltd.မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ဖိုးနီကျွန်းနှင့် ဘားလားကျွန်းတို့ရှိ မြေ(၁၀၀)ဧကစီတွင် BOTစနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ Diving Resort Hotel & Dive Recreation Centre ဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန် ကော်မရှင် အစည်းအဝေးသို့တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂-၇-၂၀၁၅ | - | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၂-၇-၂၀၁၅ | ၂၅-၈-၂၀၁၅ | |
| | (ခ) ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန | ၂၂-၇-၂၀၁၅ | ၆-၈-၂၀၁၅ | |
| | (ဂ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၂၂-၇-၂၀၁၅ | ၂၈-၈-၂၀၁၅ | |
| ၃။ | PAT အစည်းအဝေး (၂၄/၂၀၁၅) သို့ တင်ပြခြင်း | ၁၃-၇-၂၀၁၅ | | |
| ၄။ | PAT အစည်းအဝေးဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | - | | |
| ၅။ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပေးပို့ခြင်း | ၁၆-၁၂-၂၀၁၅ | | |
| ၆။ | ကုမ္ပဏီမှအဆိုပြုလွှာ(၁၅)စုံ ပြန်လည်ပေးပို့ခြင်း | ၂၂-၁၂-၂၀၁၅ | | |
| ၇။ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ်/နေ့ရက် | ၂၃/၂၀၁၅ (၂၈-၁၂-၂၀၁၅) | | |
| ၈။ | **စုစုပေါင်းကြာမြင့်ရက်** | **(၁၇၀)ရက်** | | |

မှတ်ချက်။ တနင်္သာရီတိုင်းဒေသကြီးအတွင်းရှိ ကျွန်းများပေါ်တွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်လုပ်ကိုင်ရန် တင်ပြထားသည့် အဆိုပြုချက်များနှင့် စပ်လျဉ်း၍ မူဝါဒများ လမ်းညွှန်ချက်များ ခံယူထားဆဲဖြစ်သဖြင့် ရက်ပေါင်း၁၇၀ကျော် ကြာမြင့်နေခြင်းဖြစ်ပါသည်။

ကုမ္ပဏီအမည် - Amata International Co., Ltd.

အဖွဲ့အစည်းပုံသဏ္ဌာန် - လီမိတက်ကုမ္ပဏီ( Private Company ဖြစ်ပါသည်။)

လုပ်ငန်းအမျိုးအစား - BOT စနစ်ဖြင့် နိုင်ငံ တကာအဆင့်မီ Diving Resort Hotel & Dive Recreation Centre လုပ်ငန်း

တည်နေရာ - တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ဖိုးနီကျွန်းရှိမြေ ၁၀၀ ဧက နှင့် ဘားလားကျွန်းရှိ မြေ (၁၀၀) ဧက

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၁၀၅၀၀.၀၀ သန်း (US$ ၂.၂၁ သန်းအပါအဝင်)

လုပ်ငန်းသက်တမ်း -၅၀ နှစ်

အရင်းကြေကာလ - (၅)နှစ်၊(၁၀)လ

IRR - ၁၄.၂၁ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၂.၁၆ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၆ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၀.၁၅ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၂၇၆၂.၆၉ |
| ၅ | ဝင်ငွေခွန် | ၃၈၅၁.၀၆ | ၄၅၉၃.၀၂ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ၁၉၃.၉၆ |
| ၇ | CSR (၂ %) | - | ၇၃.၀၂ |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း ၈၀ ဦး<br>ပြည်ပဝန်ထမ်း ၄ ဦး |
| | စုစုပေါင်း | ကျပ် ၃၈၅၃.၃၇ သန်း | ကျပ် ၇၆၂၃.၈၅ သန်း |
| | Cost : Benefit | ၁: ၂ | |

ကန့်သတ်

## Amata International Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်း ခရိုင်၊ ကော့သောင်းမြို့နယ်၊ ဖိုးနီကျွန်းနှင့် ဘားလားကျွန်းတို့ရှိ မြေ(၁၀၀)ဧကစီ တွင် BOT စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ Diving Resort Hotel & Dive Recreation Centre လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Amata International Co., Ltd. |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဝင်းအောင် (အဘ-ဦးလှဝင်း) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - လီမိတက်ကုမ္ပဏီ(Private Company ဖြစ်ပါသည်။) |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - နိုင်ငံတကာ အဆင့်မီ Diving Resort Hotel & Dive Recreation Centre လုပ်ငန်း |
| | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ဖိုးနီကျွန်းရှိ မြေ (၁၀၀)ဧက နှင့် ဘားလားကျွန်းတို့ရှိ မြေ (၁၀၀) ဧက |
| ၂။ | တည်ဆောက်ရေးကာလ | - ၃၀ လ |
| ၃။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - (၅၀)နှစ် |
| ၄။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု**<br>- ငွေသား<br>- ဟိုတယ်လုပ်ငန်းသုံးပစ္စည်း<br>- အဆောက်အဦ<br>- အခြား | - **ကျပ် ၁၀၅၀၀.၀၀၀ သန်း (US$၂.၂၁သန်းအပါအဝင်)**<br>- ကျပ် ၃၅၉၉.၂၈၃ သန်း<br>- ကျပ် ၁၅၇၄.၇၁၇ သန်း (US$၁.၅၀သန်း)<br>- ကျပ် ၄၅၈၀.၇၄၁ သန်း<br>- ကျပ် ၇၄၅.၂၅၉ သန်း (US$၀.၇၁သန်း) |
| ၅။ | ဝန်ဆောင်မှု(၆)နှစ်မြောက် | (see table below) |
| ၆။ | ဝင်ငွေ<br>အသားတင်အမြတ်(၆ နှစ်မြောက်) | - ကျပ် ၁၄၀၆.၂၈ သန်း |

| စဉ် | ဝန်ဆောင်မှုပေးမည့်အခန်းအမျိုးအစားနှင့် ခရီးစဉ် | ဝန်ဆောင်မှုပေးနိုင်မည့် အခန်း | Occupancy rate(%) | ၁ခန်းလျှင် ဝန်ဆောင်ခနှုန်း (US$) |
|---|---|---|---|---|
| (က) | Room | ၂၀ | ၆၀% | ၅၀၀ |
| (ခ) | Room(with dive) | ၃၀ | ၆၀% | ၂၀၀ |
| (ဂ) | Sight seeing | ၄ | ၅၀% | ၁၀၀၀ |

ကန့်သတ်

| | | |
|---|---|---|
| ၇။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (၆နှစ်မြောက်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br>- ကျပ် ၄၆၈.၇၆ သန်း<br>- ကျပ် ၃၃၅.၀၇ သန်း |
| ၈။ | အရင်းကြေကာလ | - (၅)နှစ်၊(၁၀)လ |
| ၉။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၄.၂၁ % |
| ၁၀။ | လုပ်သားအင်အား | - ပြည်တွင်း -၈၀ ဦး<br>ပြည်ပ - ၄ ဦး |
| ၁၁။ | လစာပေးချေမှုအစီအစဉ် | - ပြည်တွင်းဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် (၁၅၀,၀၀၀)ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် (၁,၅၀၀,၀၀၀) ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ US$(၁၅၀၀)ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ (၅၀၀၀) ဖြစ်ပါသည်။ |
| ၁၂။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - CSRအတွက် အသားတင်အမြတ်၏ ၁ ရာခိုင်နှုန်း သုံးစွဲမည်ဖြစ်ပြီး လုပ်ငန်းလုပ်ကိုင်ရာ ဒေသတစ်ဝိုက်၌ လူမှုလုပ်ငန်းများဖြစ်သည့် သက်ဆိုင်ရာ ကျွန်းသာယာ လှပ၍ စိမ်းလန်းစိုပြေစေရန် အရိပ်ရ သစ်ပင်ကြီးများ နှင့် ပန်းအလှပင်များကို စနစ်တကျ စိုက်ပျိုးသွားမည် ဖြစ်ပြီး ကျေးငှက်တိရိစ္ဆာန်များ အရိပ်ခိုအောင်းနိုင်ရန် အထောက်အကူပြု လုပ်ငန်းများကို စနစ်တကျ လုပ်ဆောင်သွားမည်ဖြစ်ပြီး ကျွန်းပေါ်ဒေသတွင် ရပ်ကွက် မီးဘေးကင်းဝေးစေရန် မီးသတ် သင်တန်းများ အခမဲ့ ပို့ချခြင်း၊ မီးသတ်ကိရိယာများ တပ်ဆင်ခြင်း၊ လုပ်ငန်းလုပ်ကိုင်ရာ ဒေသအနီးတွင် ကျေးရွာမီးလင်းစေရန် ဆောင်ရွက်ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၃။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် ကြိုတင်ကာကွယ်တားဆီးမှု အစီအမံများ တင်ပြထားပါသည်။ |
| ၁၄။ | လျှပ်စစ်ဓါတ်အား | -နိုင်ငံတော်အစိုးရမှ ဖြန့်ဖြူးသော လျှပ်စစ်ဓါတ်အားကို အဓိကရယူသုံးစွဲမည်ဖြစ်သော်လည်း လျှပ်စစ်ဓါတ်အား လုံလောက်မှု မရှိပါက ကိုယ်ပိုင်မီးစက်ဖြင့် အသုံးပြုသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ရေချိုရရှိရေးအတွက် စမ်းသပ်ရှာဖွေခြင်းများ ပြုလုပ်ခဲ့ပြီး ပညာရှင်များမှ 4 inches Cube Well ဖြင့်တူး၍ ရေချိုရရှိနိုင်ကြောင်း စမ်းသပ်တွေ့ရှိထားပြီးဖြစ်သည်ဟု တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၄/မ- ၁၄၈၈ / ၂၀၁၅( ၁၀၃၈ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၂၃ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **Amata International Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ဖိုးနီကျွန်းနှင့် ဘားလားကျွန်းတို့ရှိ မြေ(၁၀၀)ဧကစီ တွင် BOT စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ Diving Resort Hotel & Dive Recreation Centre လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ Amata International Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ဖိုးနီကျွန်းနှင့် ဘားလားကျွန်းတို့ရှိ မြေ(၁၀၀) ဧကစီတွင် BOT စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ Diving Resort Hotel & Dive Recreation Centre လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဝင်းအောင် မှ တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၅ ခုနှစ် ဇူလိုင်လ ၁၃ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏(၂၄/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ကနဦး (၅၀) နှစ်၊ တစ်ကြိမ်လျှင်(၁၀) နှစ်စီဖြင့် (၂)ကြိမ် သက်တမ်းတိုးမည်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၃၀)လအတွင်းဖြစ်သည်။ ပဏာမ စူးစမ်းလေ့လာမှု ပြုလုပ်မည့် ကာလမှာ (၆)လဖြစ်ပါသည်။

၃။ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် Amata International Co., Ltd. တို့ ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ် (မူကြမ်း)နှင့် B.OT စနစ်ဖြင့် ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ဘားလားကျွန်း(ခ)သံယုတ်ကျွန်းအတွက် ကျပ် ၁,၀၀၀,၀၀၀ (ကျပ်ဆယ်သိန်းတိတိ)နှင့် ဖိုးနီကျွန်း(ခ)ဗိုလ်ရာညွှန့်ကျွန်း အတွက် ကျပ် ၁,၀၀၀,၀၀၀ (ကျပ်ဆယ်သိန်းတိတိ) အား စာချုပ် လက်မှတ်ရေးထိုးသည့်နေ့တွင် သတ်မှတ်ထားသော ငွေစာရင်းခေါင်းစဉ်သို့ သတ်မှတ်ထားသော နည်းလမ်းအတိုင်း ပေးသွင်းရမည်။ (စာချုပ်အပိုဒ် ၄-၁)

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်းကာလမှာ ကနဦး နှစ်(၅၀)နှင့် နောက်ထပ်(၁၀)နှစ် (၂)ကြိမ် ဖြစ်ပါသည်။(စာချုပ်အပိုဒ် ၄-၂)

(ဂ) ဘားလားကျွန်း(ခ)သံယုတ်ကျွန်းနှင့် ဖိုးနီကျွန်း(ခ)ဗိုလ်ရာညွန့်ကျွန်းတို့၏ နှစ်စဉ် မြေငှား ရမ်းခမှာ အောက်ပါအတိုင်းဖြစ်ပါသည်-(စာချုပ်အပိုဒ် ၅-၂)

| စဉ် | မြေအမျိုးအစား | ဧက | ငှားရမ်းခ(တစ်နှစ်လျှင်)ကျပ်(သန်း) |
|---|---|---|---|
| (က) | အသုံးပြုနိုင်သောမြေ | ၂၅ | ၅၀၀,၀၀၀(တစ်ဧကလျှင်ကျပ် ၂၀၀၀၀နှုန်း) |
| (ခ) | လုပ်ငန်းသုံးမြေ | ၂၅ | ၁၂၅,၀၀၀(တစ်ဧကလျှင်ကျပ်၅၀၀၀နှုန်း) |
| (ဂ) | အကာအကွယ်ပေးမြေ | ၅၀ | ၁၀၀,၀၀၀(တစ်ဧကလျှင်ကျပ် ၂၀၀၀နှုန်း) |

(ဃ) တည်ဆောက်ရေးကာလအား ကနဦး လေ့လာရေး(၆)လအပါအဝင် (၃၆)လအတွင်း တည် ဆောက်ရမည်ဖြစ်သည်။(စာချုပ်အပိုဒ် ၆-၂)

၄။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန် ဒေါ်လာ(၂.၈၇)သန်းအပါအဝင် စုစုပေါင်း ကျပ်(၁၀၅၀၀.၀၀)သန်း ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | | |
|---|---|---|---|---|
| (က) ငွေသား | ကျပ် | ၃၅၉၉.၂၈၃ | သန်း | |
| (ခ) ဟိုတယ်လုပ်ငန်းသုံးပစ္စည်း | ကျပ် | ၁၅၇၄.၇၁၇ | သန်း | (US$ ၁.၅၀သန်း) |
| (ဂ) အဆောက်အဦ | ကျပ် | ၄၅၈၀.၇၄၁ | သန်း | |
| (ဃ) အခြား | ကျပ် | ၇၄၅.၂၅၉ | သန်း | (US$ ၀.၇၁ သန်း) |
| **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ်** | **၁၀၅၀၀.၀၀၀** | **သန်း** | **(US$ ၂.၂၁ သန်းအပါအဝင်)** |

၅။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှ ဝန်ထမ်း(၄)ဦးနှင့် ပြည်တွင်းမှ ဝန်ထမ်း(၈၀)ဦး ခန့်ထား မည်ဖြစ်ကြောင်းတင်ပြထားပါသည်။ ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၅၀၀ နှင့် အမြင့် ဆုံး လစာမှာ US$ ၅၀၀၀ဖြစ်ပြီး၊ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်(၁၅၀၀၀၀)နှင့် အမြင့်ဆုံး လစာမှာ ကျပ်(၁၅၀၀၀၀၀) ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်း၏ (၆)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ဝန်ဆောင်မှုပေးမည့် အခန်းအမျိုးအစား နှင့် ခရီးစဉ် | ဝန်ဆောင်မှုပေး နိုင်မည့် အခန်း | Occupancy rate(%) | ၁ခန်းလျှင် ဝန်ဆောင်ခ နှုန်း(US$) |
|---|---|---|---|---|
| က | Room | ၂၀ | ၆၀ % | ၅၀၀ |
| ခ | Room(with dive) | ၃၀ | ၆၀ % | ၂၀၀ |
| ဂ | Sight Seeing | ၄ | ၅၀% | ၁၀၀၀ |

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

အမေရိကန်တစ်ဒေါ်လာ=၁၀၅၀ ကျပ်

| စဉ် | အကြောင်းအရာ | ကျပ် (သန်း) | US$ | ညီမျှသော ကျပ်(သန်း) | စုစုပေါင်း ကျပ် (သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၁၀၉.၅၀၀ | ၆.၂၇ | ၆၅၈၃.၅၀ | ၆၆၉၃.၀၀ |
| (ခ) | အသုံးစရိတ် | ၂၅၂၀.၆၇ | ၂.၂၀ | ၂၃၀၅.၆၉ | ၄၈၂၀.၁၇ |
| (ဂ) | အသားတင်အမြတ် | (၂၄၁၁.၁၇) | ၄.၀၈ | ၄၂၈၄.၀၀ | ၁၈၇၂.၈၃ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၄၆၈.၇၆ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၃၃၅.၀၇ သန်းရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ် (၁၀)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၄.၂၁ % ဖြစ်ပါသည်။

၉။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထား များတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

**(က) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ-က)**

(၁) လုပ်ငန်းဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက် ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်း စီမံချက်ရေးဆွဲခြင်း၊ ဆောက်လုပ်ခြင်း နှင့် လုပ်ငန်းလည်ပတ်ခြင်း အဆင့်ဆင့်တို့အတွက် ဆောင်ရွက် မည့် အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များနှင့် စက်ကိရိယာများ အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှုအတွက် အသားတင် အမြတ်ငွေ၏(၁%)အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန် ။

(၂) စီမံကိန်းလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုနှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) အစီရင်ခံစာ ရေးဆွဲတင်ပြရန်။

(၃) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီ အစဉ်များ၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးသည့်စနစ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါး ရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေနှင့် ဝန်ဆောင်မှု

လုပ်ငန်း အစီအမံများ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင် အထည်ဖော် ဆောင်ရွက်ရန်။

**(အထက်ပါ သဘောထား မှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် ထိန်းသိမ်းရေးအတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)အား တင်ပြမည် ဖြစ်ကြောင်း ဖော်ပြထားပါသည်။)**

**(ခ) ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)**

(၁) အဆိုပြုတင်ပြချက်ပါ မြေဧက(၁၀၀)အနက်၊ ၂၅ဧကကိုသာ တည်ဆောက်ရေး အတွက် အသုံးပြုမည်ဖြစ်ပြီး ယင်းအပေါ် မြေအသုံးချခ၊ မြေငှားရမ်းခနှုန်းထား များမှာလည်း အလွန်နည်းပါးလျက်ရှိရာ ဖွံ့ဖြိုးတိုးတက်လာသည့်အခါ ပြန်လည် ပြင်ဆင် သတ်မှတ်နိုင်မည့် အခြေအနေမျိုး စာချုပ်တွင် ထည့်သွင်းဖော်ပြသင့်ပါ ကြောင်းနှင့် သဘောတူ စာချုပ်ချုပ်ဆိုပြီး သတ်မှတ်ကာလ(၃)နှစ်အတွင်း လုပ်ငန်း စတင်လည်ပတ်ရန် လိုအပ်ကြောင်း။

(၂) သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းခြင်းဆိုင်ရာ သန္တာကျောက်တန်းများ ထိန်းသိမ်း ခြင်း၊ ငါးမျိုးစိတ်များထိန်းသိမ်းခြင်း၊ သဘာဝပေါက်ပင်များ ထိန်းသိမ်းခြင်းများကို လိုက်နာ ဆောင်ရွက်မည့် စီမံကိန်း အစီအမံများကို တိကျစွာ ရေးဆွဲဖော်ပြသင့် ကြောင်း။

(၃) ကုမ္ပဏီအနေဖြင့် ဟိုတယ်မှ Dive Site သို့ ဧည့်သည်များအား သယ်ယူပို့ဆောင် မည့် အစီအစဉ်၊ Dive Recreation Center ဝန်ဆောင်မှုပေးရာတွင် အရေးပေါ် အခြေ အနေများ ဆောင်ရွက်မည့် အစီအစဉ်၊ လုံခြုံရေးဆိုင်ရာ အစီအစဉ်များ စသည့် စီမံချက်များကို အသေးစိတ်ရေးဆွဲပြီး အနီးကပ် ကြီးကြပ်ကွပ်ကဲမည့် တိုင်း ဒေသကြီး အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ရယူ ဆောင်ရွက်သွားရန် လိုအပ် ပါကြောင်း။

(၄) ကုမ္ပဏီမှ ကျွန်းပေါ်တွင် သဘာဝအခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်တည် ဆောက်ခြင်းလုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်သည့်အတွက် ဟိုတယ်နှင့် ခရီးသွား လာရေးလုပ်ငန်း ဝန်ကြီးဌာန၏ (၁-၁-၂၀၁၅)ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့် ကြော်ငြာစာအမှတ်(၂/၂၀၁၅) "ကမ်းခြေခရီးစဉ်ဒေသ ရေရှည်တည်တံ့ ခိုင်မြဲရေး အတွက် လိုက်နာဆောင်ရွက်ရန် အချက်များ"ကိုလည်း လေ့လာ၍ လိုက်နာဆောင် ရွက်ရန် လိုအပ်ကြောင်း။

(ဂ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း (နောက်ဆက်တွဲ-ဂ)

မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းမှ အဆောက်အဦပိုင်းတွင် ပြည်ပမှ တင်သွင်းမည့် ဘိလပ်မြေ နှင့် Rebarများ၏ ထောက်ခံသည့် အရေအတွက်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ပစ္စည်းအမျိုး အမည် | Unit | MIC စာအုပ်ပါ အရေအတွက် | BQတွင်ပါဝင်သော အရေအတွက် | ထောက်ခံ တင်ပြသော အရေအတွက် |
|---|---|---|---|---|---|
| ၁။ | Cement | Ton | ၃၁၂၀ | ၂၀၉၂.၂၀ | ၁၈၅၂ |
| ၂။ | Rebar | Ton | ၁၀၀ | ၉၀၃.၆၆ | ၁၀၀ |
| ၃။ | Structural Steel | Ton | ၃၀၀ | ၃၂၄၂.၂၀ | ၂၉၅ |
| ၄။ | OSB Board | Sheet | ၂၀၀၀၀ | ၄၈၈၄.၀၀ | ၄၈၈၄ |
| ၅။ | Cement Batching Plant | Unit | ၅ | | ၃ |
| ၆။ | Basins | Unit | ၃၀၀ | | ၂၀၆ |
| ၇။ | Shower | Unit | ၃၀၀ | | ၁၃၂ |
| ၈။ | Bathtub | Unit | ၃၀၀ | | ၆၀ |
| ၉။ | Shower Curtain | Unit | ၃၀၀ | | ၁၃၂ |
| ၁၀။ | Soap Dispenser | Unit | ၃၀၀ | | ၂၀၆ |
| ၁၁။ | Towel Hanger | Unit | ၃၀၀ | | ၂၀၆ |
| ၁၂။ | Kettle | Unit | ၂၀၀ | | ၁၀၈ |
| ၁၃။ | Hair Dryer | Unit | ၃၀၀ | | ၁၃၂ |
| ၁၄။ | Water Heater | Unit | ၁၀၀ | | ၈၄ |
| ၁၅။ | Mattress 6.5'x7' | Unit | ၁၅၀ | | ၁၄၄ |
| ၁၆။ | Mattress 3.5'x6.5' | Unit | ၁၅၀ | | ၁၄၄ |
| ၁၇။ | Pillow Case Large | Unit | ၁၅၀ | | ၁၄၄ |
| ၁၈။ | Pillow Case Small | Unit | ၁၅၀ | | ၁၄၄ |
| ၁၉။ | Pillow Large | Unit | ၁၅၀ | | ၁၄၄ |
| ၂၀။ | Pillow Small | Unit | ၁၅၀ | | ၁၄၄ |
| ၂၁။ | Bed Sheet Large | Unit | ၁၅၀ | | ၁၄၄ |
| ၂၂။ | Bed Sheet Small | Unit | ၁၅၀ | | ၁၄၄ |
| ၂၃။ | Duvert Large | Unit | ၁၅၀ | | ၁၄၄ |
| ၂၄။ | Duvert Small | Unit | ၁၅၀ | | ၁၄၄ |
| ၂၅။ | Duvert Cover Large | Unit | ၁၅၀ | | ၁၄၄ |
| ၂၆။ | Duvert Cover Small | Unit | ၁၅၀ | | ၁၄၄ |
| ၂၇။ | Safety Box | Unit | ၁၅၀ | | ၁၀၈ |
| ၂၈။ | Rug | Unit | ၁၅၀ | | ၁၄၄ |
| ၂၉။ | Carpet | Unit | ၁၅၀ | | ၁၀၀ |

၁၀။ ကျပ်ငွေ အထောက်အထားအဖြစ် Amata International Co., Ltd. အမည်ဖြင့် ကမ္ဘောဇဘဏ်တွင် (၉-၃-၂၀၁၅) နေ့စွဲရှိ စာရင်းဖွင့် ငွေလက်ကျန် ကျပ်(၅၉၉၆၄၉)သန်း နှင့် ကျပ် (၅၀၅၉၉၆၄၉)သန်း တင်ပြထားပါသည်။ သုံးစွဲမည့်ကျပ်ငွေ ၈၁၈၀.၀၂ သန်းအတွက် ၁.၇ % ရှိကြောင်း စိစစ် ရပါသည်။နိုင်ငံခြားငွေ အထောက်အထားအဖြစ် Amata International Co., Ltd. အမည်ဖြင့် ကမ္ဘောဇဘဏ်တွင် (၂၃-၃-၂၀၁၅) နေ့စွဲရှိ စာရင်းဖွင့် ငွေလက်ကျန် US$ ၂၉၉၈၁.၉၁ သန်း တင်ပြ ထားပါသည်။ သုံးစွဲမည့် US$ ၂.၂၁ သန်းအတွက် ၁.၄ % ရှိကြောင်း စိစစ်ရပါသည်။

၁၁။ အဆိုပြု လုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါကြောင်းနှင့် လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည် ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန် ဆောင်ရွက် မည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်းအတွက် ကုမ္ပဏီမှ CSR အတွက် အသားတင်အမြတ်၏ ၁ ရာခိုင်နှုန်း သုံးစွဲမည် ဖြစ်ပြီး လုပ်ငန်းလုပ်ကိုင်ရာဒေသတစ်ဝိုက်၌ လူမှုလုပ်ငန်းများဖြစ်သည့် သက်ဆိုင်ရာ ကျွန်းသာယာ လှပ၍ စိမ်းလန်းစိုပြေစေရန် အရိပ်ရ သစ်ပင်ကြီးများနှင့် ပန်းအလှပင်များကို စနစ်တကျ စိုက်ပျိုးသွား မည်ဖြစ်ပြီး ကျေးငှက်တိရိစ္ဆာန်များ အရိပ်ခိုအောင်းနိုင်ရန် အထောက်အကူပြုလုပ်ငန်းများကို စနစ် တကျ လုပ်ဆောင်သွားမည်ဖြစ်ပြီး ကျွန်းပေါ်ဒေသတွင် ရပ်ကွက်မီးဘေးကင်းဝေးစေရန် မီးသတ် သင်တန်းများ အခမဲ့ ပို့ချခြင်း၊ မီးသတ်ကိရိယာများတပ်ဆင်ခြင်း၊ လုပ်ငန်းလုပ်ကိုင်ရာ ဒေသအနီးတွင် ကျေးရွာ မီးလင်းစေရန် ဆောင်ရွက်ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေးအတွက် ဝန်ထမ်းများ၏ လစာ ကို အမှန်တကယ် ဖြစ်ပေါ်လျက်ရှိသော ကာလပေါက်ဈေးနှုန်းများဖြင့် တွက်ချက်ပေးခြင်း၊ ဝန်ထမ်းများ ၏ လစာအပြင် ရက်မှန်ကြေး၊ ရက်ပိုကြေးများ ပေးအပ်ခြင်း၊ နှစ်သစ်ကူးကာလများတွင် ပျော်ပွဲရွှင်ပွဲ များ ပြုလုပ်ပေးခြင်း၊ ဝန်ထမ်းများ၏ အလုပ်လုပ်ချိန်ကိုလည်း မြန်မာနိုင်ငံ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာနမှ တရားဝင် ပြဌာန်းထားသည့် တစ်နေ့အလုပ်ချိန် ၈ နာရီ သတ်မှတ်ထားပေးခြင်း၊ ကျန်းမာ ရေးအတွက် ဆရာဝန်များ ၊ ကျန်းမာရေး စစ်ဆေးရေးမှူးများကို ခန့်အပ်၍ အချိန်မှန် စစ်ဆေး စေခြင်း၊ ဝန်ထမ်းများ သက်သာ ချောင်ချိရေးအတွက် နားနေခန်း၊ စားသောက်ခန်းများကိုလည်း ထားရှိ ပေးမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၄။ လုပ်ငန်း ဆောင်ရွက်ရာတွင် နိုင်ငံတော်အစိုးရမှ ဖြန့်ဖြူးသော လျှပ်စစ်ဓါတ်အားကို အဓိက ရယူသုံးစွဲမည်ဖြစ်သော်လည်း လျှပ်စစ်ဓါတ်အားလုံလောက်မှုမရှိပါက ကိုယ်ပိုင်မီးစက်ဖြင့် အသုံးပြု သွားမည်ဖြစ်ကြောင်း နှင့် ရေချိုရရှိရေးအတွက် စမ်းသပ်ရှာဖွေခြင်းများ ပြုလုပ်ခဲ့ပြီး ပညာရှင်များမှ 4 inches Cube Well ဖြင့်တူး၍ ရေချိုရရှိနိုင်ကြောင်း စမ်းသပ်တွေ့ရှိထားပြီးဖြစ်သည်ဟု တင်ပြထား ပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀၀ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ည) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို ကော်မရှင်သို့ တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါမည်။

၁၆။ **စိစစ်တင်ပြချက်**

(က) ကော်မရှင်မှ တနင်္သာရီတိုင်းဒေသကြီးရှိ ကျွန်းများတွင် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရန်အတွက် လုပ်ငန်း(၈)ခုအား ခွင့်ပြုမိန့် ထုတ်ပေးထားပြီးဖြစ်ပါသည်။

**ပူးတွဲ**

(ခ) ယခုတင်ပြသည့် ကုမ္ပဏီမှ ပေးသွင်းရမည့် မြေအသုံးချမှုပရီမီယံကြေးမှာ ဘားလားကျွန်း(ခ)သံယုတ်ကျွန်းအတွက် ကျပ် ၁,၀၀၀,၀၀၀ (ကျပ်ဆယ်သိန်းတိတိ)နှင့် ဖိုးနီကျွန်း(ခ) ဗိုလ်ရာညွှန့်ကျွန်းအတွက် ကျပ် ၁,၀၀၀,၀၀၀ (ကျပ်ဆယ်သိန်းတိတိ) ဖြစ်ပြီး မြေငှားရမ်းခမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | မြေအမျိုးအစား | ဧက | ငှားရမ်းခ(တစ်နှစ်လျှင်)ကျပ်(သန်း) |
|---|---|---|---|
| (က) | အသုံးပြုနိုင်သောမြေ | ၂၅ | ၅၀၀,၀၀၀(တစ်ဧကလျှင်ကျပ်၂၀၀၀၀နှုန်း) |
| (ခ) | လုပ်ငန်းသုံးမြေ | ၂၅ | ၁၂၅,၀၀၀(တစ်ဧကလျှင်ကျပ်၅၀၀၀နှုန်း) |
| (ဂ) | အကာအကွယ်ပေးမြေ | ၅၀ | ၁၀၀,၀၀၀(တစ်ဧကလျှင်ကျပ်၂၀၀၀နှုန်း) |

**ဆုံးဖြတ်ရန်အချက်**

၁၇။ Amata International Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ဖိုးနီကျွန်းနှင့် ဘားလားကျွန်းတို့ရှိ မြေ(၁၀၀)ဧကစီတွင် BOT စနစ်ဖြင့်နိုင်ငံတကာအဆင့်မီ Diving Resort Hotel & Dive Recreation Centre လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တနင်္သာရီ တိုင်းဒေသကြီး အစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ



နောက်ဆက်တွဲ(က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NPT - 3855
24-8-15

စာအမှတ် ၃(၂)/၁၆(စ)(၆)/( ၁၉၉၉ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M3-793
2518

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂ - ၇ - ၂၀၁၅ ရက်စွဲပါစာ အမှတ်၊ ရက - ၄ / မ - ၁၄၈၈ / ၂၀၁၅ ( ၅၄၃ )

၁။ Amata International Co., Ltd မှ တနင်္သာရီတိုင်းဒေသကြီး ၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ် ၊ ဖိုးနီကျွန်း နှင့် ဘားလားကျွန်းတို့ရှိ မြေ(၁၀၀) ဧကစီတွင် BOT စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ Diving Resort Hotel & Dive Recreation Centre လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုရန် ကိစ္စ နှင့် ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်လည်တင်ပြပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြုလုပ်ငန်းအား စိစစ်ရာတွင် လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ထွက်ရှိလာသော ရေဆိုးများ ၊ စွန့်ပစ်ပစ္စည်း အစိုင်အခဲ ၊ အရည် နှင့် စွန့်ပစ်အဆီ များအား စနစ်တကျ စီမံခန့်ခွဲမှု မပြုလုပ်ပါက ပတ်ဝန်းကျင် ရေထု ၊ မြေဆီလွှာ နှင့် လေထု ညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ခြင်း၊ လုပ်ငန်းဆောင်ရွက်မည့် ကျွန်းများအနီး ရေနေသတ္တဝါများ၊ ဒီရေတောများ၊ သန္တာကျောက်တန်းများရှိပါက အဆိုပါ ရေနေသတ္တဝါများ၊ ဒီရေတောများ နှင့် သန္တာကျောက်တန်းတို့အပေါ် ထိခိုက်မှုများ ရှိလာနိုင်ခြင်းစသည့် ပတ်ဝန်းကျင် ထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာသည် သစ်တောဦးစီးဌာန၏ သစ်တောနယ်မြေအတွင်း ကျရောက်မှု မရှိသော်လည်း သစ်တောဥပဒေပ ပုဒ်မ ၁၂(ဂ)အရ ၊ သစ်တောသစ်ပင်များ ခုတ်လှဲခြင်းမပြုရန် ၊ ကျွန်းစုများအပေါ်တွင် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေရန် နှင့် ဒီရေတောများ ၊ သဘာဝသစ်တောများ ၊ သစ်ပင်များ အပါအဝင် သဘာဝ ပေါက်ရောက်ပင်များအား ဂေဟစနစ် တည်ငြိမ်ရေး နှင့် ထိခိုက်မှု အနည်းဆုံးဖြစ်စေရန် ရှောင်ကွင်းဆောင်ရွက်လုပ်ကိုင်မည့် တည်ဆောက်မှုလုပ်ငန်းများဖြစ်မည် ဆိုပါက B.O.T စနစ်ဖြင့် မြေ ( ၁၀၀ ) ဧကစီ ငှားရမ်းခြင်းကို တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ အတည်ပြုလက်ခံသည့် လုပ်ငန်းဖြစ်ခြင်း ၊ သစ်တောနယ်မြေအတွင်း ကျရောက်မှု မရှိခြင်းတို့ကြောင့် ကန့်ကွက်ရန် မရှိပါကြောင်း ဖော်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ Amata International Co., Ltd မှ နိုင်ငံတကာ အဆင့်မီ Diving Resort Hotel & Dive Recreation Centre လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စ နှင့် ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) လုပ်ငန်းဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင် ၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကိုလျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်ရေးဆွဲခြင်း ၊ ဆောက်လုပ်ခြင်း နှင့် လုပ်ငန်းလည်ပတ်ခြင်း အဆင့်ဆင့်တို့အတွက် ဆောင်ရွက်မည့် အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များနှင့်စက်ကိရိယာများ အသုံးပြုရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှုအတွက် အသားတင် အမြတ်ငွေ၏ ( ၁ % ) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) စီမံကိန်းလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) အစီရင်ခံစာ ရေးဆွဲတင်ပြရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများမဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်များ ၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးသည့်စနစ် ၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေနှင့် ဝန်ဆောင်မှု လုပ်ငန်းအစီအမံများ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) မိလ္လာအညစ်အကြေး စွန့်ထုတ်မှုလုပ်ငန်းစဉ်များ၊အညစ်အကြေးသန့်စင်မှုလုပ်ငန်းစနစ်များ ၊ ရေဆိုးပြန်လည် သန့်စင်မှုလုပ်ငန်းစနစ်များ ၊ အစိုင်အခဲစွန့်ပစ်ပစ္စည်းများ စီမံခန့်ခွဲမှု ၊ ရေရယူအသုံးပြုမှု နှင့် ရေစီမံခန့်ခွဲမှုစနစ်များအား ထည့်သွင်းရေးဆွဲဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူတို့ နှင့် လူထုတွေ့ဆုံဆွေးနွေးပွဲများ ပြုလုပ်ပြီး ၎င်းတို့၏ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

(စ) ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန ၊ ဟိုတယ် နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ပြဋ္ဌာန်းထားသည့် ဥပဒေ ၊ နည်းဥပဒေ ၊ ညွှန်ကြားချက်များ ၊ လုပ်ထုံးလုပ်နည်းများ နှင့်အညီ လိုက်နာဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

M3-725
6/8

NPT 2510
5.8.15



နောက်ဆက်တွဲ (ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၈-၇ (အုပ်ချုပ်မှု)/နပတ/ ၂၄၇၃
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဩဂုတ် လ ၄ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၂-၇-၂၀၁၅) ရက်စွဲပါစာအမှတ်ရက- ၄/ မ-၁၄၈၈/၂၀၁၅(၅၄၄)

၁။ Amata International Co.,Ltd မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်ဖိုးနီကျွန်းနှင့်ဘားလားကျွန်းတို့ရှိမြေ(၁၀၀)ဧကစီတွင် BOTစနစ်ဖြင့် နိုင်ငံတကာအဆင့်မီ Diving Resort Hotel & Dive Recreation Center လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဝင်းအောင် မှ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှတဆင့် အဆိုပြုချက်တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပေးနိုင်ပါရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ယခုအခါတွင် တနင်္သာရီတိုင်းဒေသကြီးအတွင်းရှိကျွန်းစုများသို့ နိုင်ငံခြားသားဧည့်သည်များစိတ်ဝင်စားမှုများပြားလာကာ နှစ်စဉ်တိုးတက်ဝင်ရောက်လေ့လာလျက်ရှိပြီး၊ ယခုတင်ပြလာသည့် Amata International Co.,Ltd မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်ဖိုးနီကျွန်းနှင့်ဘားလားကျွန်းတို့ရှိ မြေ(၁၀၀)ဧကစီတွင်တည်ဆောက်မည့် ဟိုတယ်စီမံကိန်းသည် ရေရှည်တွင်တိုးတက်ဝင်ရောက်လာမည့် နိုင်ငံခြားသားများအတွက်အဆင့်မီအိပ်ခန်းများ လုံလောက်မှုရှိစေရန်ဖြည့်ဆည်းဆောင်ရွက်မှုဖြစ်ခြင်း၊ နိုင်ငံသားပိုင်လုပ်ဆောင်မှုနည်းပါးသည့် Dive Siteလုပ်ငန်းကို မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Dive Recreation Centerအပါအဝင်ဝန်ဆောင်မှုပေးမည့် ဟိုတယ်စီမံကိန်းဖြစ်ပြီး တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့ မှ အဆိုပါမြေအားစာချုပ်ချုပ်ဆို၍ ငှားရမ်းရန်ဆုံးဖြတ်ခွင့်ပြုခဲ့သဖြင့် ကန့်ကွက်ရန်မရှိပါ။

C-1-1Remark-LH

၃။ Amata International Co.,Ltdမှ ငှားရမ်းမည့် အခန်းခနှုန်းထားများတွင် Dive Recreation Center တွင်ပါဝင်မည့် အခန်း(၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၂၀၀) နှင့်Bungalow (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၅၀၀)ဟု ဖော်ပြထားသဖြင့် ငှားရမ်းမည့်နှုန်းထားများနှင့် အသုံးပြုမည့်ပစ္စည်းများ၊ ပေးအပ်မည့်ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန်လိုအပ်ပါသည်။

၄။ Amata International Co.,Ltd မှ ဆောင်ရွက်မည့်ဟိုတယ်လုပ်ငန်းအတွက် ပြည်ပမှ တင်သွင်းမည့် တည်ဆောက်ရေးပစ္စည်းများ၊ ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အခွန်သက်သာခွင့်မှာ ကော်မရှင်၏အဆုံးအဖြတ်သာရယူရမည်ဖြစ်ပါသည်။

၅။ ဘားလားကျွန်း(ခ)သံယုတ်ကျွန်းနှင့် ဖိုးနီကျွန်း(ခ)ဗိုလ်ရာညွန့်ကျွန်းပေါ်တွင် လုပ်ငန်းဆောင်ရွက်ရန်အတွက် မြေဧက(၁၀၀)စီကို တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Amata International Co.,Ltd တို့ချုပ်ဆိုမည့် မြေငှားစာချုပ်တွင်မြေအသုံးချခအဖြစ်(၁)ဧကလျှင် မြန်မာကျပ်ငွေတစ်သောင်းနှုန်းဖြင့်မြေဧက(၁၀၀)အတွက်မြန်မာကျပ်ငွေ (၁၀)သန်းဟု လည်းကောင်း၊ နှစ်စဉ်မြေငှားရမ်းခနှင့်စပ်လျဉ်း၍ အသုံးပြုနိုင်သောမြေ(၂၅)ဧကအတွက် (၁)ဧကလျှင် မြန်မာကျပ်ငွေ(၂၀၀၀၀)၊အရန်ထားရှိသည့်မြေ(၂၅)ဧကအတွက်(၁)ဧကလျှင်မြန်မာကျပ်ငွေ(၅၀၀၀)၊အကာအကွယ်ပေးသည့် မြေ(၅၀)ဧကအတွက်(၁)ဧကလျှင် မြန်မာကျပ်ငွေ(၂၀၀၀)နှုန်းစီ တွက်ချက်သတ်မှတ်ထားကြောင်းတွေ့ရှိရပါသည်။မြေဧက (၁၀၀)အနက်၊(၂၅)ဧက ကိုသာ တည်ဆောက်ရေးအတွက် အသုံးပြုမှာဖြစ်ပြီး ယင်းအပေါ် မြေအသုံးချခ၊ မြေငှားရမ်းခနှုန်းထားများမှာလည်း အလွန်နည်းပါလျှက်ရှိရာ ဖွံ့ဖြိုးတိုးတက်လာသည့်အခါ ပြန်လည်ပြင်ဆင်သတ်မှတ်နိုင်မည့်အခြေအနေမျိုးစာချုပ်တွင် ထည့်သွင်းဖော်ပြသင့်ပါသည်။ သို့မှသာလျှင် ထိုက်သင့်သည့်အကျိုးကျေးဇူးကို ဒေသခံအစိုးရအဖွဲ့မှခံစားရရှိပြီး ဒေသဖွံ့ဖြိုး တိုးတက်ရေးဆောင်ရွက် နိုင်မည်ဖြစ်ပါသည်။သဘောတူစာချုပ်ချုပ်ဆိုပြီး သတ်မှတ်ကာလ(၃)နှစ်အတွင်း လုပ်ငန်းစတင်လည်ပတ်ရန်လိုအပ်ပါသည်။ သို့မဟုတ်ပါက မြေနေရာဦးထားပြီး အချိန်ဆွဲထားတတ်သည်ကိုထည့်သွင်းစဥ်းစားရန်လိုအပ်ပါသည်။

၆။ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းခြင်းဆိုင်ရာ သန္တာကျောက်တန်းများ ထိန်းသိမ်းခြင်း ၊ ငါးမျိုးစိတ်များထိန်းသိမ်းခြင်း၊ သဘာဝပေါက်ပင်များထိန်းသိမ်းခြင်းများကို လိုက်နာဆောင်ရွက်မည့် စီမံကိန်းအစီအမံများကို တိကျစွာရေးဆွဲဖော်ပြသင့်ပါသည်။

၇။ ကုမ္ပဏီအနေဖြင့် ဟိုတယ်မှ Dive Site သို့ ဧည့်သည်များအား သယ်ယူပို့ဆောင်မည့် အစီအစဉ်၊ Dive Recreation Center ဝန်ဆောင်မှုပေးရာတွင်အရေးပေါ်အခြေအနေများဆောင်ရွက်မည့်အစီအစဉ်၊လုံခြုံရေးဆိုင်ရာအစီအစဉ်များစသည့် စီမံချက်များကို အသေးစိတ်ရေးဆွဲပြီး အနီးကပ်ကြီးကြပ်ကွပ်ကဲမည့် တိုင်းဒေသကြီးအစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ရယူဆောင်ရွက်သွားရန်လိုအပ်ပါသည်။

၈။ ကုမ္ပဏီမှကျွန်းပေါ်တွင်သဘာဝအခြေခံသောအပန်းဖြေစခန်းနှင့်ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းကိုဆောင်ရွက်မည်ဖြစ်သည့်အတွက် ဤဝန်ကြီးဌာန၏(၁-၁-၂၀၁၅)ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် (၂/၂၀၁၅)"ကမ်းခြေခရီးစဉ်ဒေသ ရေရှည်တည်တံ့ခိုင်မြဲရေးအတွက် လိုက်နာဆောင်ရွက်ရန်အချက်များ "ကိုလည်းလေ့လာ၍လိုက်နာဆောင်ရွက်ရန်လိုအပ်ပါသည်။

၉။ ထို့အပြင် KMOT Co.,Ltd မှ ဆောင်ရွက်မည့် ဟိုတယ်လုပ်ငန်းအတွက် ဟိုတယ်တည်ဆောက်ရေး၊ အခန်းများဖွဲ့စည်းရေးနှင့် လိုအပ်သော Facilities များထည့်သွင်းရေးအတွက် မြန်မာနိုင်ငံဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေ၊နည်းဥပဒေနှင့် လိုင်စင်ဆိုင်ရာအမိန့်များတွင်ပါဝင်သော ဟိုတယ်တည်ဆောက် ရေးဆိုင်ရာအခြေခံလိုအပ်ချက်စံနှုန်းများ(Basic Requirements and Criteria)ထက်မနိမ့်ကျစေရေးအတွက်အဆိုပါဥပဒေ၊အမိန့်များကိုကြိုတင်ရယူလေ့လာ၍ ဆောင်ရွက်သွားရန်လည်းလိုအပ်ပါကြောင်း တင်ပြအပ်ပါသည်။

(ဦးဌေးအောင်)

ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

ရုံးလက်ခံ

မျှော




မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
**MYANMAR ENGINEERING SOCIETY**
Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm

နောက်ဆက်တွဲ (ဂ)

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မအသ / MIC / ၁၃၆၉ / ၂၀၁၅။
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ၊ ( ၂၀ ) ရက်။

အကြောင်းအရာ။ **Amata International Co.,Ltd ၏ BOT စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ Diving Resort Hotel & Dive Recreation Centre လုပ်ငန်း ဆောင်ရွက်ရန်ကိစ္စ။**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၅ခုနှစ်၊ ဇူလိုင်လ(၂၂)ရက် နေ့စွဲပါ စာအမှတ်၊ ရက–၄/မ–၁၄၈၈/၂၀၁၅ (၅၄၅)

၁။ အထက်ဖော်ပြပါအကြောင်းအရာကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သက်ဆိုင်ရာ Amata International Co.,Ltd မှ ၂၀၁၅ခုနှစ်၊ ဇူလိုင်လ(၂၂)ရက်စွဲဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ဗိုးနီကျွန်းနှင့် ဘားလားကျွန်းတို့ရှိ မြေ(၁၀၀)ဧကစီတွင် နိုင်ငံတကာအဆင့်မီ Diving Resort Hotel & Dive Recreation Centre လုပ်ငန်းဆောင်ရွက်ရန် အဆောက်အဦနှင့် ပက်သက်သောပုံစံများနှင့် အသေးစိတ်ဇယားများကို လိုအပ်သောလမ်းညွှန်ချက်များ ပေးပါရန် တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့်ပတ်သက်၍ (၂၄–၇–၂၀၁၅)ရက်နေ့မှ (၁၈–၈–၂၀၁၅) ရက်နေ့အထိ Foundation အပိုင်း၊ Structure အပိုင်း၊ အဆောက်အဦ အတွက်အသုံးပြုမည့် ဆောက်လုပ်ရေးပစ္စည်းများကို စိစစ်သုံးသပ်ခဲ့ပါသည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် တနင်္သာရီတိုင်းတွင် တည်ဆောက်မည့် Diving Resort Hotel & Dive Recreation Centre တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

၄။ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် ဆောက်လုပ်ရေးပစ္စည်းများနှင့် ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများအရေအတွက်ကို ပူးတွဲပါ(၁)ဖြင့် ထောက်ခံတင်ပြအပ်ပါသည်။

၅။ Amata International Co.,Ltd မှ (၁၅.၈.၂၀၁၅) ရက်စွဲပါ စာအမှတ် ၀၁၅/အမတ/၂၀၁၅ ဖြင့် ကုမ္ပဏီမှတင်ပြထားသော နိုင်ငံခြားမှ မှာယူတင်သွင်းမည့် လုပ်ငန်းသုံးပစ္စည်းများအနက်မှ အောက်ဖော်ပြပါပစ္စည်းများအား စာရင်းမှပယ်ဖျက်မည်ဖြစ်ကြောင်း တင်ပြလာသဖြင့် ၎င်းစာကို ပူးတွဲ(၂)ဖြင့် တင်ပြအပ်ပါသည်။

မှတ်ချက်။ ။(၁) ယခုတင်ပြသောစီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံ၊ဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ်တည်ဆောက်မည့် ပုံစံ၊ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့်အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) သက်ဆိုင်ရာဝန်ကြီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ဝင်းခိုင်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

မိတ္တူကို- Managing Director, Amata International Co.,Ltd

- ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- အတွင်းရေးမှူး၊ MIC Projects Assessment Committee
- ရုံးလက်ခံ / မျှောစာတွဲ



| စဉ် | ပစ္စည်းအမျိုးအမည် | Unit | MIC စာအုပ်ပါ အရေအတွက် | BQ တွင် ပါဝင်သော အရေအတွက် | ထောက်ခံတင်ပြသော အရေအတွက် |
|---|---|---|---|---|---|
| ၁ | Cement | Ton | 3,120.00 | 2,092.20 | 1,852 |
| ၂ | Rebar | Ton | 100.00 | 903.66 | 100 |
| ၃ | Structural Steel | Ton | 300.00 | 3,242.20 | 295 |
| ၄ | OSB Board | Sheet | 20,000.00 | 4,884.00 | 4,884 |
| ၅ | Cement Batching Plant | Unit | 5.00 | | 3 |
| ၆ | Basins | Unit | 300.00 | | 206 |
| ၇ | Shower | Unit | 300.00 | | 132 |
| ၈ | Bathtub | Unit | 300.00 | | 60 |
| ၉ | Shower Curtain | Unit | 300.00 | | 132 |
| ၁၀ | Soap Dispenser | Unit | 300.00 | | 206 |
| ၁၁ | Towel Hanger | Unit | 300.00 | | 206 |
| ၁၂ | Kettle | Unit | 200.00 | | 108 |
| ၁၃ | Hair Dryer | Unit | 300.00 | | 132 |
| ၁၄ | Water Heater | Unit | 100.00 | | 84 |
| ၁၅ | Mattress 6.5'x7' | Unit | 150.00 | | 144 |
| ၁၆ | Mattress 3.5'x6.5' | Unit | 150.00 | | 144 |
| ၁၇ | Pillow Case Large | Unit | 150.00 | | 144 |
| ၁၈ | Pillow Case Small | Unit | 150.00 | | 144 |
| ၁၉ | Pillow Large | Unit | 150.00 | | 144 |
| ၂၀ | Pillow Small | Unit | 150.00 | | 144 |
| ၂၁ | Bed Sheet Large | Unit | 150.00 | | 144 |
| ၂၂ | Bed Sheet Small | Unit | 150.00 | | 144 |
| ၂၃ | Duvert Large | Unit | 150.00 | | 144 |
| ၂၄ | Duvert Small | Unit | 150.00 | | 144 |
| ၂၅ | Duvet Cover Large | Unit | 150.00 | | 144 |
| ၂၆ | Duvet Cover Small | Unit | 150.00 | | 144 |
| ၂၇ | Safety Box | Unit | 150.00 | | 108 |
| ၂၈ | Rug | Unit | 150.00 | | 144 |
| ၂၉ | Carpet | Unit | 150.00 | | 100 |



နှုံးတွဲ(၂)



# AMATA INTERNATIONAL COMPANY LTD.

No.10, Inya Yeik Tha Rd, Mayangone Tsp, Yangon, Myanmar.
Tel: 01 657050, 657690, 665126 Fax: 01 - 657050

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
ရန်ကုန်မြို့

စာအမှတ်။ ။ ၀၁၅/အမတ/၂၀၁၅
ရက်စွဲ။ ။ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ(၁၅)ရက်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ စိစစ်ထားသော ပစ္စည်းများ၏အရေအတွက် အားသဘော တူပါကြောင်းတင်ပြခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များ Amata International Co.,Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်အတွင်းရှိ ဖိုးနီကျွန်းနှင့် ဘာလားကျွန်း မြေဧရိယာ (၁၀၀) ဧကစီပေါ်တွင် ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ နိုင်ငံတကာအဆင့်မီ Diving Resort Hotel & Recreation Center အား တည်ဆောက်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ ခွင့်ပြုမိန့်တောင်းခံထားပါသည်။ မြန်မာနိုင်ငံရင်း နှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ ဟိုတယ်လုပ်ငန်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်တောင်းခံထားရာ ကုမ္ပဏီမှတင်ပြထားသော နိုင်ငံခြားမှမှာယူတင်သွင်းမည့်လုပ်ငန်းသုံးပစ္စည်းများ အနက် အောက်ဖော်ပြပါပစ္စည်းများအား စာရင်းမှပယ်ဖျက်မည်ဖြစ်ပြီး၊ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ စိစစ်ပေး ထားသည့် ပစ္စည်းအရေအတွက်များကို နောက်ဆက်တွဲပါစာရင်းအတိုင်းသဘောတူပါကြောင်းတင်ပြအပ်ပါသည်။

ကုမ္ပဏီမှ ပယ်ဖျက်သော လုပ်ငန်းသုံးပစ္စည်းစာရင်း

| Sr.No. | Particular |
|---|---|
| **GG** | **BED ROOM ACCESSORIES** |
| 16 | Protector |
| **HH** | **BATHROOM ACCESSORIES** |
| 22 | Bed Sheet Large |
| 23 | Bed Sheet Small |
| 24 | Duvet Large |
| 25 | Duvet Small |
| 26 | Duvet Cover Large |
| 27 | Duvet Cover Small |
| 28 | Kettle |
| DD | ROOFING |
| 8 | Roof (Aluzinc) |

လေးစားစွာဖြင့်

Kyaw Zaya
Site Engineer
Amata Hotel Group

# ကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးပြီးနှင့် ဆောင်ရွက်ဆဲ တနင်္သာရီတိုင်းဒေသကြီးအတွင်းရှိ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများ၏ မြေငှားရမ်းခနှုန်းထားများအား နှိုင်းယှဉ်တင်ပြခြင်း

| စဉ် | ကုမ္ပဏီအမည် နှင့် လုပ်ငန်းအမျိုးအစား | တည်နေရာ | မြေ အကျယ် အဝန်း (ဧက) | တစ်နှစ်မြေငှားရမ်းခ | L.U.P | မြေငှားကာလ | ရင်းနှီးမြှုပ်နှံမှု | မှတ်ချက် BOT Partner |
|---|---|---|---|---|---|---|---|---|
| (၁) | Victoria Resort<br>Victoria Entertainment Resort Club Ltd.<br>ဟိုတယ်လုပ်ငန်း<br><br>၃၀၉/၁၉၉၈<br>(၃၁-၃-၁၉၉၈) | ရတနာကျွန်း<br>ကော့သောင်းမြို့နယ် | ၁၀၀ | မြေ ၁၀၀ ဧက အတွက် ပထမ ၃ နှစ် အတွင်း စုစုပေါင်း ဝင်ငွေ၏ ၅ % (သို့) US$ ၀.၃၅ သန်း ၊ (၁ဧက US$ ၃၅၀၀ နှုန်း)<br><br>၄ နှစ်မြောက်မှ ၁၀ နှစ် အတွင်း စုစုပေါင်း ဝင်ငွေ၏ ၅ % (သို့) US$ ၀.၅၀ သန်း (၁ဧက US$ ၅၀၀၀ နှုန်း)<br><br>၁၁ နှစ်မြောက်မှ ၂၀ နှစ် အတွင်း စုစုပေါင်း ဝင်ငွေ၏ ၆ % (သို့) US$ ၁.၀၀ သန်း<br>(၁ဧက US$ ၁၀၀၀၀ နှုန်း)<br><br>၂၀ နှစ်မြောက်မှ ၃၀ နှစ် အတွင်း စုစုပေါင်း ဝင်ငွေ၏ ၆ % (သို့) US$ ၁.၂၀ သန်း (၁ဧက US$ ၁၂၀၀၀ နှုန်း) | စုစုပေါင်း ၁၀၀ ဧက အတွက် US$ ၀.၄ သန်း | B.O.T<br>၃၀ နှစ် | ဖက်စပ်<br>နိုင်ငံခြား | ဟိုတယ်/ခရီး |
| (၂) | St. Luke's Island Co., Ltd. | Palau Ganchar ကျွန်း<br>ကမ်းခြေကော့သောင်း မြို့နယ် | ၂၁၃.၃၃ | တည်ဆောက် ရေးကာလ အတွင်း ၁ လ လျှင် US$ ၂၀၀၀ | - | B.O.T<br>၁၅ နှစ် | ရာခိုင်နှုန်းပြည့်<br>နိုင်ငံခြား | မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက် |

| စဉ် | ကုမ္ပဏီအမည် နှင့် လုပ်ငန်းအမျိုးအစား | တည်နေရာ | မြေ အကျယ် အဝန်း (ဧက) | တစ်နှစ်မြေငှားရမ်းခ | L.U.P | မြေငှားကာလ | ရင်းနှီးမြှုပ်နှံမှု | မှတ်ချက် BOT Partner |
|---|---|---|---|---|---|---|---|---|
| | ဟိုတယ်လုပ်ငန်း<br>၃၈၇/၂၀၀၄<br>(၁၄-၅-၂၀၀၄) | | | ဟိုတယ် တရားဝင်ဖွင့်လှစ်ပြီးနောက် ဝင်ငွေ၏ ၆ % (သို့) US$ ၉၆၀၀၀ အနက် များရာ<br>(၁ဧက US$ ၄၅၀.၀၁နှုန်း) | | | | |
| (၃) | Mokan International Co., Ltd.<br>ဟိုတယ်လုပ်ငန်း<br>၅၉၁/၂၀၁၃<br>(၄-၁၀-၂၀၁၃) | ကျွန်းဖိလာကျွန်းနှင့်ငမန်းကျွန်း၊ကော့သောင်းမြို့နယ် | ၅၁၀၀ | မြေ ၅၁၀၀ ဧက အတွက် US$ ၂၇,၈၅၀<br>(၁ဧက US$ ၅.၄၆ နှုန်း) | မြေ၅၁၀၀ ဧက အတွက် US$ ၅၅၀၀၀ အား ၂ ကြိမ်ခွဲပေး | ၅၀+၁၀+၁၀ | ဖက်စပ် နိုင်ငံခြား | တနင်္သာရီ တိုင်းဒေသကြီး အစိုးရအဖွဲ့<br><br>(ကမ်းနှင့်အလှမ်း ဝေးပြီး ကပ္ပလီ ပင်လယ်အတွင်းရှိ ကျွန်း) |
| (၄) | Cocoon Hotel Co., Ltd.<br>ဟိုတယ်လုပ်ငန်း<br>မနသ-၁၀၂၁/၂၀၁၅<br>(၁၂-၁-၂၀၁၅) | တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ စူငယ်ဘာလိုင်းကျေးရွာ အုပ်စုတွင်ပါဝင်သောမြေ | ၆၈၇၈၂ စတုရန်းမီတာ (၁၇ ဧက) | US$ ၀.၀၆၉ သန်း<br>(၁ စတုရန်းမီတာလျှင် US$ 1$ နှုန်း)<br><br>(ယခု ပြင်ဆင်ခွင့် တင်ပြသည့် နှုန်း ၁ ဧက ကျပ် ၂၀၀၀၀ နှုန်း) | ကျပ် ၀.၁၇ သန်း<br>(၁ ဧက ကျပ် ၁၀၀၀၀ နှုန်း) | B.O.T<br>၅၀ နှစ် | မြန်မာ နိုင်ငံသား ရင်းနှီးမြှုပ်နှံမှု | တနင်္သာရီ တိုင်းဒေသကြီး အစိုးရအဖွဲ့ |
| (၅) | United Hotels and Resorts Co., Ltd.<br>မနသ-၁၀၃၄/၂၀၁၅<br>(၂၅-၂-၂၀၁၅) | တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ကျွန်းစုဒေသ၊ ခေင်ညိုကြီးကျွန်း | ၂၀ | ကျပ် ၄၀၀,၀၀၀ (၁ ဧက ကျပ် **၂၀၀၀၀** နှုန်း) | ကျပ်၆.၀၀သန်း | B.O.T<br>၅၀ နှစ် | မြန်မာ နိုင်ငံသား ရင်းနှီးမြှုပ်နှံမှု | တနင်္သာရီ တိုင်းဒေသကြီး အစိုးရအဖွဲ့ |

| စဉ် | ကုမ္ပဏီအမည် နှင့် လုပ်ငန်းအမျိုးအစား | တည်နေရာ | မြေ အကျယ် အဝန်း (ဧက) | တစ်နှစ်မြေငှားရမ်းခ | L.U.P | မြေငှားကာလ | ရင်းနှီးမြှုပ်နှံမှု | မှတ်ချက် BOT Partner |
|---|---|---|---|---|---|---|---|---|
| (၆) | Grand Andaman Co., Ltd.<br>ဟိုတယ်လုပ်ငန်း<br><br>မနသ- ၁၀၆၂/၂၀၁၅<br>(၂၈-၆-၂၀၁၅) | သူငွေးကျွန်း(ပိုလိုရှူးကျွန်း)၊ ကော့သောင်းမြို့ | ၁၈၀၀ | မြေ ၁၈၀၀ ဧက အတွက် ပထမ ၁၀ နှစ် အတွက် ကျပ် ၂၅၀ သန်း (သို့) စုစုပေါင်းဝင်ငွေ၏ ၅ % အနက် များရာ<br>ဒုတိယ ၁၀ နှစ် အတွက် ကျပ် ၄၀၀ သန်း (သို့) စုစုပေါင်းဝင်ငွေ၏ ၅ % အနက် များရာ<br>ဒုတိယ ၁၀ နှစ်၏ နောက် ပိုင်းနှစ်များအတွက် ကျပ် ၆၀၀ သန်း (သို့) စုစုပေါင်းဝင်ငွေ၏ ၅ % အနက် များရာ | - | B.O.T<br>၅၀ နှစ်<br>(၂၁-၈-၁၉၉၂) မှစတင် ရေတွက် | မြန်မာ နိုင်ငံသား ရင်းနှီးမြှုပ်နှံမှု | ဟိုတယ်/ခရီး |
| (၇) | TZK Co., Ltd.<br>မနသ-၁၀၆၇/၂၀၁၅<br>(၁၀-၇-၂၀၁၅) | တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့နယ်၊ ဇာဒက်ကြီးကျေးရွာ အုပ်စုညောင်ဦးဖီးကျွန်း၊ ကွင်းအမှတ်(၂၅/ OSS) | ၁၀၀ | ကျပ် ၂.၀၀ သန်း<br>(၁ ဧက ကျပ် ၂၀၀၀၀ နှုန်း ) | ကျပ် ၂.၀၀သန်း | B.O.T<br>၅၀ နှစ် | မြန်မာ နိုင်ငံသား ရင်းနှီးမြှုပ်နှံမှု | တနင်္သာရီ တိုင်းဒေသကြီး အစိုးရအဖွဲ့ |
| (၈) | Benchmade Asia (Myanmar) Limited<br><br>၁၀၂၆/၂၀၁၃<br>(၁၄-၁၀-၂၀၁၅) | တနင်္သာရီတိုင်းဒေသကြီး ၊ဘုတ်ပြင်းမြို့နယ်ရှိ လန်ပိအက္ခဝါ အမျိုးသား ဥယျာဥ်အတွင်း | ၁၀၀.၁၅ | US$ ၄၀၀၆၀ (၁ ဧက US$ ၄၀၀ နှုန်း) | US$ ၇၀၀၀၀ | B.O.T<br>၅၀နှစ် | ရခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု | |

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်
တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

နှင့်

# Amata International Co., Ltd

တို့အကြား

ချုပ်ဆိုသော
ဘားလားကျွန်း (ခ) သံယုတ်ကျွန်း
Diving Resort & Recreation Centre
တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ
သဘောတူစာချုပ်(B.O.T)
(မူကြမ်း)

ရက်စွဲ ။ ။ ၂၀၁၅ ခုနှစ်၊ လ၊ ရက်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
တနင်္သာရီတိုင်းဒေသကြီး

DG 3/3/

စာအမှတ်၊ ၃၆၃၅ /၈၃၉ /၈-၃၉/အဖရ(တနင်္သာရီ)
ရက်စွဲ ၊ ၂၀၁၅ခုနှစ်၊ ဇူလိုင်လ ၂ ရက်

M3-620
6/7

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Amata International Co.,Ltd တို့အကြားချုပ်ဆိုမည့် တည်ဆောက်၊လုပ်ကိုင်၊လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်နှင့် မြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)များကို စိစစ်ခွင့်ပြုပေးနိုင်ပါရန်ကိစ္စ**

ရည်ညွှန်းချက် ။ (၁) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ (၃.၄.၂၀၁၅)ရက်စွဲပါစာအမှတ်၊ ၂(၅) ၃-၅၀ / နပတ (၃၃၄)

(၂) Amata International Co.,Ltd ၏ (၂၇.၆.၂၀၁၅)ရက်စွဲပါစာအမှတ်၊ အမတ-ထား၀ယ်/၀၀၈-၀၆-၁၅

၁။ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်အတွင်းရှိ ဖိုးနီကျွန်း(ခ)ဗိုလ်ရာညွှန့်ကျွန်း၊ မြေဧရိယာ(၁၀၀)ဧကနှင့် ဘားလားကျွန်း(ခ)သံယုတ်ကျွန်း၊ မြေဧရိယာ(၁၀၀)ဧကတို့တွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ နိုင်ငံတကာအဆင့်မီ Diving Resort Hotel & Recreation Centre အား ရင်းနှီးမြှုပ်နှံတည်ဆောက်ရန်အတွက် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Amata International Co.,Ltd တို့အကြား ချုပ်ဆိုမည့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်နှင့် မြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)များအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ဥပဒေအကြံပြုချက်များနှင့်အညီ ပြင်ဆင်ရေးဆွဲပြုစု၍ (၂၃.၆.၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၁၂/၂၀၁၅)သို့ တင်ပြခဲ့ရာ ဆုံးဖြတ်ချက်အပိုဒ်(၆၅)အရ "အတည်ပြုကြောင်း " ဆုံးဖြတ်ခဲ့ပြီး ဖြစ်ပါသည်။

၂။ သို့ပါ၍ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်အတွင်းရှိ ဖိုးနီကျွန်း(ခ)ပိုလ်ရာညွှန့်ကျွန်း၊ မြေဧရိယာ (၁၀၀) ဧကနှင့် ဘားလားကျွန်း(ခ) သံယုတ်ကျွန်း၊ မြေဧရိယာ(၁၀၀)ဧကတို့တွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီနိုင်ငံတကာအဆင့်မီ Diving Resort Hotel & Recreation Centreအား ရင်းနှီးမြှုပ်နှံတည်ဆောက်ခွင့်ပြုနိုင်ပါရန် Amata International Co.,Ltd ၏ အဆိုပြုလွှာ ၊ မြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)နှင့် တည်ဆောက်၊လုပ်ကိုင်၊လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)များနှင့်အတူ ပူးတွဲပေးပို့ တင်ပြအပ်ပါသည်။

| | |
|---|---|
| ပူးတွဲပါ - တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)<br>မြေငှားရမ်းခြင်းဆိုင်ရာသဘောတူ စာချုပ်(မူကြမ်း) | (၂) အုပ်စီ |
| Amata International Co.,Ltd ၏ အဆိုပြုလွှာ | (၁) အုပ် |
| ပြည်ထောင်စုရှေ့နေချုပ်ရုံး၏အကြံပြုလွှာ | (၁)စောင် |

ဝန်ကြီးချုပ်(ကိုယ်စား)
( အောင်ကျော်ကျော်ဦး၊ စည်ပင်သာယာရေးဝန်ကြီး )

မိတ္တူကို

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ နေပြည်တော်
Amata International Co.,Ltd ၊ ရန်ကုန်မြို့
လက်ခံစာတွဲ
မျှောစာတွဲ



# AMATA INTERNATIONAL COMPANY LTD.

No.10, Inya Yeik Tha Rd, Mayangone Tsp, Yangon, Myanmar.
Tel: 01 657050, 657690, 665126 Fax: 01 - 657050

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ( ) ရက်။

**အကြောင်းအရာ။** ။**<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ပြုပြင်ပြီးအဆိုပြုချက်များ ပြန်လည်ပေးပို့ခြင်း။</u>**

ရည်ညွှန်းချက်။ ။(၁)မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉–၈–၂၀၁၅ နေ့စွဲပါ စာအမှတ် ရက–၄/မ–၁၄၈၈/၂၀၁၅(၆၂၂)
(၂))မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁–၈–၂၀၁၅ နေ့စွဲပါ စာအမှတ် ရက–၄/မ–၁၄၈၈/၂၀၁၅)၆၆၃)
(၃)မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ ၂၀–၈–၂၀၁၅ ရက်စွဲပါ စာအမှတ် မအသ/MIC/၁၃၆၉/၂၀၁၅၊

ကျွန်တော်တို့၏ **AMATA INTERNATIONAL COMPANY LIMITED.** သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ မြိတ်ကျွန်းစုအတွင်းရှိ ဘားလားကျွန်းနှင့် ဖိုးနီကျွန်း တို့၌ မြေအကျယ်(၁၀၀)ဧကစီ ပေါ်တွင် နိုင်ငံတကာအဆင့်မီ **Diving Resort Hotel & Dive Recreation Centre** တည်ဆောက်ပြီး လုပ်ငန်းလုပ်ကိုင်နိုင်ရန်ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

အထက်ရည်ညွှန်းချက်ပါစာများဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ပေးပို့လာသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်တို့မှ သဘောထားမှတ်ချက်များနှင့်အညီ လိုအပ်သလို ပြန်လည်ပြင်ဆင်မှုများပြုလုပ်၍ ရှိသေလေးစားစွာဖြင့် ပြန်လည်တင်ပြအပ်ပါသည်။

(က) စာချုပ်တွင် ပါဝင်သည့်အတိုင်း သတ်မှတ်ကာလ(၃)နှစ်အတွင်း လုပ်ငန်းစတင်ဆောင်ရွက်သွားပါမည်။
(ခ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်းဆိုင်ရာ သန္တာကျောက်တန်းများထိန်းသိမ်းခြင်း၊ ငါးမျိုးစိတ်များထိန်းသိမ်းခြင်း၊ သဘာဝပေါက်ပင်များထိန်းသိမ်းခြင်းများကို ကမ္ဘာ့အဆင့်အတန်းမီ စံကိုက်နှုန်းအစီအမံများအတိုင်း ထည့်သွင်းရေးဆွဲ၍ အကောင်အထည်ဖော်ဆောင်ရွက်သွားပါမည်။

တစ်ဖက်သို့ –

၂၀-၃ စာချုပ်သက်တမ်း တိုးမြှင့်ခြင်းကို တစ်ကြိမ်လျှင် (၁၀) နှစ်ဖြင့် (၂)ကြိမ်အထိ သက်တမ်းတိုးမြှင့်နိုင်သည
သက်တမ်းတိုးမြှင့်မှုကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြ၍ ခွင့်ပြုချက်ရယူဆောင်ရွက်ရမည

၂၁။ အသိပေးခြင်း

၂၁-၁ စာချုပ်ဝင် နှစ်ဦးနှစ်ဘက်တို့သည် အောက်ပါဆက်သွယ်ရေးလမ်းကြောင်း အတိုင်းဆက်သွယ
အကြောင်းကြားရန်ဖြစ်ပါသည်။

(က) အကြောင်းကြားသည့် စနစ်များမှာစာဖြင့်လည်းကောင်း၊ တယ်လီဖုန်း၊ ဖက်(စ်)၊ အီးမေး(လ်)တို့ဖြင့်လည်းကောင်း၊ လူကိုင်တိုင်တွေ့ဆုံခြင်းဖြင့်လည်းကောင်း၊ အထူး ဆက်သားဖြင့်ဆက်သွယ်၍လည်းကောင်း အကြောင်းကြားဆက်သွယ်ရန် ဖြစ်ပါသည်။

(ခ) ဆက်သွယ်ရန်လိပ်စာ

<u>လုပ်ကိုင်ခွင့်ပြုသူ</u>

| | | |
|---|---|---|
| အမည် | - | ဦးတင်သိန်း |
| မှတ်ပုံတင်အမှတ် | - | ၇/တငန (နိုင်)၀၀၆၀၆၇ |
| လိပ်စာ | - | အတွင်းရေးမှူး<br>တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့<br>ထားဝယ်မြို့။ |
| ဖုန်းနံပါတ် | - | (၉၅)-၅၉-၂၃၅၅၆၊ ၀၉-၈၇၆၀၁၅၅ |
| ဖက်(စ်) | - | (၉၅)-၅၉-၂၃၆၀၀ |

<u>လုပ်ကိုင်ခွင့်ရသူ</u>

| | | |
|---|---|---|
| အမည် | - | ဦးဝင်းအောင် |
| မှတ်ပုံတင်အမှတ် | - | ၁၂/ပဇတ(နိုင်)၀၂၈၇၃၂ |
| လိပ်စာ | - | အမှတ် ၁၀၊ အင်းလျားရိပ်သာလမ်း<br>မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| ဖုန်းနံပါတ် | - | (၉၅)-၁-၆၅၇၀၅၀၊ ၀၉-၅၁၄၇၂၀၁ |
| အီးမေး(လ်) | - | winaung66@gmail.com |

၂၂။ အထွေထွေ

၂၂-၁ ဤစာချုပ်နှင့်ပူးတွဲထားသည့်နောက်ဆက်တွဲများသည် ဤစာချုပ်၏တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။

၂၂-၂ အထက်ပါစည်းကမ်းချက်များ၊ အချက်အလက်များကို စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် သဘောတူညီကြပြီး ဖြစ်သည့်အလျောက် ၂၀၁၅ခုနှစ်၊ လ၊ ရက်နေ့တွင် အောက်ပါအသိသက်သေများ၏ရှေ့မှောက်၌ သဘောတူစာချုပ်၊ ချုပ်ဆို၍ လက်မှတ်ရေးထိုး ကြပါသည်။

| လုပ်ကိုင်ခွင့်ပြုသူ | လုပ်ကိုင်ခွင့်ရသူ |
|---|---|
| ဦးတင်သိန်း | ဦးဝင်းအောင် |
| အတွင်းရေးမှူး | မန်နေဂျင်းဒါရိုက်တာ |
| တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ | Amata International Co.Ltd. |
| ထားဝယ်မြို့။ | ရန်ကုန်တိုင်းဒေသကြီး |
| ရက်စွဲ။ ။ | ရက်စွဲ။ ။ |

အသိသက်သေများ

| | | | | | |
|---|---|---|---|---|---|
| လက်မှတ် | - | --------------- | လက်မှတ် | - | --------------- |
| အမည် | - | --------------- | အမည် | - | --------------- |
| မှတ်ပုံတင် | - | --------------- | မှတ်ပုံတင် | - | --------------- |
| လိပ်စာ | - | --------------- | လိပ်စာ | - | --------------- |
| | | --------------- | | | --------------- |
| | | --------------- | | | --------------- |
| | | --------------- | | | --------------- |
| ရက်စွဲ | - | --------------- | ရက်စွဲ | - | --------------- |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

နှင့်

# Amata International Co.,Ltd

တို့အကြား

ချုပ်ဆိုသော

ဘားလားကျွန်း(ခေါ်) သံယုတ်ကျွန်း

Diving Resort & Recreation Centre

## မြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)

ရက်စွဲ။ ၂၀၁၅ ခုနှစ်၊ လ ( ) ရက်။

**တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့**

**နှင့်**

**Amata International Co.,Ltd.**

**တို့အကြားချုပ်ဆိုသော**

**မြေငှားရမ်းခြင်းဆိုင်ရာ**

**သဘောတူစာချုပ် (မူကြမ်း)**

ဤမြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်ကို ၂၀၁၅ ခုနှစ်၊ လ၊ ( )ရက် နေ့၌၊ မြို့တွင် ဦးတင်သိန်း၊ (မှတ်ပုံတင်အမှတ်–တငန(နိုင်)၀၀၆၀၆၇၊ အတွင်းရေးမှူး၊ တနင်္သာရီတိုင်း ဒေသကြီးအစိုးရအဖွဲ့ကိုယ်စားပြုသော၊ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ ထားဝယ်မြို့ (နောင်တွင် ''**အငှားချထားသူ**'' ဟုခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများ ဥပဒေအရလွှဲအပ်ခြင်း ခံရသူများပါဝင်သည် ) ကတဖက်

နှင့်

ဦးဝင်းအောင်၊ နိုင်ငံသားစိစစ်ရေးအမှတ်(၁၂/ပဇတ(နိုင်)၀၂၈၇၃၂) ၊ မန်နေဂျင်းဒါရိုက်တာ Amata International Co.,Ltd. ကိုယ်စားပြုသော၊ အမှတ်(၁၀) အင်းလျားရိပ်သာလမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးတွင် တည်ရှိသော Amata International Co.,Ltd. (နောင်တွင် ''**အငှားချထားခြင်းခံရသူ**'' ဟု ခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်) က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များအား သဘောတူညီ သဖြင့် ဤမြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်ကို ချုပ်ဆိုကြပါသည်။

**ရည်ရွယ်ချက်**

တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ မြိတ်ကျွန်းစုအတွင်းရှိ မြေဧရိယာအကျယ်အဝန်းဧက (၁၀၀) ရှိသော ဘားလားကျွန်း(ခေါ်)သံယုတ်ကျွန်းအား ငှားရမ်း၍ သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစားပေးအဆင့်မြင့် Diving Resort & Recreation Centre ဆောက်လုပ် အကောင် အထည်ဖော်ဆောင်ရွက်ရန် ဤမြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်ကို ချုပ်ဆိုခြင်းဖြစ်ပါသည်။

## ၁။ အဓိပ္ပါယ်ဖွင့်ဆိုချက်များ

### ၁-၁ သဘောတူစာချုပ်

သဘောတူစာချုပ်ဆိုသည်မှာ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊မြိတ်ကျွန်းစု အတွင်းရှိ ဘားလားကျွန်း(ခေါ်)သံယုတ်ကျွန်း မြေပုံညွှန်းအမှတ် UTM -1098103,1098107-MM(A-174566, B- 176566, C-181558, D-182559 ,E-184556,F-180554, G-174560) မြေဧရိယာ (၁၀၀) ၊ ကေအား ငှားရမ်း၍ Amata Intenational Co.,Ltd. မှ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစားပေး၊ နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre ဆောက်လုပ်အကောင်အထည်ဖော် ဆောင်ရွက်သွားမည့် မြေငှားရမ်းခြင်းဆိုင်ရာ ဤသဘောတူစာချုပ်ကို ဆိုသည်။

(မြေပုံများကို ဤစာချုပ်၏အစိတ်အပိုင်းတစ်ရပ်အဖြစ် နောက်ဆက်တွဲ (၁) ဖြင့် ဤစာချုပ်တွင် ပူးတွဲထား ပါသည်။ )

### ၁-၂ ဘဏ္ဍာရေးနှစ်

ဘဏ္ဍာရေးနှစ်ဆိုသည်မှာ နှစ်တစ်နှစ်၏ ဧပြီလ(၁)ရက်နေ့မှ နောက်တစ်နှစ်မတ်လ(၃၁)ရက်နေ့ အထိ (၁၂)လတာ ကာလကိုဆိုသည်။

### ၁-၃ နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre တရားဝင်ဖွင့်လှစ်သည့်နေ့

နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre တရားဝင်ဖွင့်လှစ်သည့်နေ့ ဆိုသည်မှာ ဟိုတယ်အဆောက်အဦးများဆောက်လုပ်ပြီးစီး၍ လုပ်ငန်းများစတင်လည်ပတ်ပြီး၊ ဝန်ဆောင်မှုလုပ်ငန်းများ စတင်လက်ခံဆောင်ရွက်သည့်နေ့ကိုဆိုသည်။

### ၁-၄ အသုံးပြုနိုင်သောမြေ

အသုံးပြုနိုင်သောမြေဆိုသည်မှာ နိုင်ငံတကာအဆင့်မြင့် ဟိုတယ်လုပ်ငန်းနှင့် ဆက်စပ်လုပ်ငန်းများ လုပ်ကိုင် ဆောင်ရွက်ရန် သတ်မှတ်ထားသော မြေနေရာကိုဆိုသည်။

### ၁-၅ အရန်ထားရှိသည့်မြေ

အရန်ထားရှိသည့်မြေဆိုသည်မှာ လက်ရှိအခြေအနေတွင် မည်သည့်လုပ်ငန်းကိုမျှ လုပ်ကိုင် ဆောင်ရွက်ခြင်း မပြုပဲ နောင်တစ်ချိန်တွင် အသုံးပြုလိုပါက အသုံးပြုနိုင်သောမြေအဖြစ်သို့ပြောင်းလဲ၍ ခွင့်ပြုချက်ရယူ ဆောင်ရွက်ရန် သတ်မှတ်ထားသောမြေကိုဆိုသည်။

### ၁-၆ အကာအကွယ်ပေးထားသည့်မြေ

အကာအကွယ်ပေးထားသည့်မြေဆိုသည်မှာ အရန်ထားရှိသည့်မြေ၊ အသုံးပြုနိုင်သောမြေအဖြစ်သို့ မည်သည့် အခါမှ မရောက်စေဘဲ၊ ငှားရမ်းသည့်ကာလတစ်လျှောက်လုံးတွင် သဘာဝပတ်ဝန်းကျင် ဂေဟစနစ်ကို မူလအတိုင်း ထိန်းသိမ်းထားရှိရမည့်မြေကိုဆိုသည်။

၁-၇ **ထပ်မံဖြည့်ဆည်းမည့် အစိတ်အပိုင်းများ**

ထပ်မံဖြည့်ဆည်းမည့်အစိတ်အပိုင်းများ ဆိုသည်မှာ ငှားရမ်းမြေပေါ်တွင် နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre ဆောင်ရွက်ရာတွင် ပါဝင်မည့် ကနဦးဆောင်ရွက်သည့် အစိတ်အပိုင်းများ ဆက်လက် ဆောင်ရွက်သွားမည့်လုပ်ငန်းများ ထပ်မံဖြည့်စွက်သည့်လုပ်ငန်းများ တည်ဆောက်ရေး လုပ်ငန်းများအားလုံးကို ဆိုသည်။

၂။ **အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

၂-၁ အငှားချထားသူသည် ဤစာချုပ်တွင်ဖော်ပြထားသော တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ မြိတ်ကျွန်းစုအတွင်းရှိ ဘားလားကျွန်း(ခေါ်)သံယုတ်ကျွန်း ဟုခေါ်တွင်သည့်၊ မြေဧရိယာ(၁၀၀) ကေ၏ မြေယာစီမံခန့်ခွဲမှု ကိစ္စရပ်များကို တရားဝင်စီမံခန့်ခွဲပိုင်ခွင့်ရှိသော အာဏာပိုင်အဖွဲ့အစည်းဖြစ်ပါသည်။

၂-၂ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါအရပ်ဒေသရှိ ဖော်ပြပါ ကျွန်းပေါ်ရှိ မြေဧရိယာအားလုံးကို နှစ်ရှည်ငှားရမ်းရန်နှင့် နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre များ လုပ်ကိုင်ဆောင်ရွက်ရန် ငွေကြေးအင်အား၊ ပစ္စည်းအင်အားနှင့် အတတ်ပညာအင်အားများရှိပြီး စာချုပ်ပါအတိုင်း ဆောင်ရွက်နိုင်စွမ်း ရှိသူဖြစ်ပါသည်။

၃။ **မြေငှားရမ်းခြင်းကာလသတ်မှတ်ခြင်းနှင့် ဖွံ့ဖြိုးမှုဆောင်ရွက်ခြင်း။**

၃-၁ အငှားချထားသူသည် ဤသဘောတူစာချုပ်၊ အပိုဒ် (၁-၁)ပါကော့သောင်းခရိုင်၊ မြိတ်ကျွန်းစု အတွင်းရှိ မြေဧရိယာအကျယ်အဝန်း (၁၀၀)ကေ၊ရှိသောဘားလားကျွန်း(ခေါ်)သံယုတ်ကျွန်းကို အငှားချထားခြင်း ခံရသူထံသို့ နှစ်ရှည်ငှားရမ်း၍၊ ၎င်းမြေပေါ်တွင် နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre များ လုပ်ကိုင်ဆောင်ရွက်ရန်သဘောတူညီပါသည်။

၃-၂ အငှားချထားသူသည် အငှားချထားခြင်းခံရသူထံသို့ ဤသဘောတူစာချုပ်၊ အပိုဒ်(၁-၁) ပါ ကော့သောင်းခရိုင်၊ မြိတ်ကျွန်းစုအတွင်းရှိ မြေဧရိယာအကျယ်ဝန်း ကေ (၁၀၀) ရှိသော ဘားလားကျွန်း(ခေါ်)သံယုတ်ကျွန်း ကို၊ ဤသဘောတူစာချုပ်လက်မှတ်၊ ရေးထိုးသည့်နေ့မှစ၍ နှစ်ပေါင်း(၅၀) ငှားရမ်းအသုံးပြုရန် ခွင့်ပြုပါသည်၊ သက်တမ်းပြည့်သည့်အခါ အငှားချထားခြင်းခံရသူသည် ဆက်လက်ငှားရမ်းခြင်း လုပ်ကိုင်ဆောင်ရွက်လိုပါက နောက်ထပ်တစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့် (၂)ကြိမ် ဆက်လက်ငှားရမ်း သုံးစွဲခွင့်ပြုရန် တင်ပြဆောင်ရွက်ခွင့် ရှိပါသည်။

၃-၃ အငှားချထားခြင်းခံရသူသည် သက်တမ်းပြည့်သည့်အခါ ဆက်လက်၍ငှားရမ်းလုပ်ကိုင်ဆောင်ရွက်လိုပါက သက်တမ်းမစေ့မီ အနည်းဆုံး(၆)လကြိုတင်၍ လျှောက်ထားရပါမည်။

၃-၄ အငှားချထားခြင်းခံရသူသည် ငှားရမ်းရရှိသည့်မြေပေါ်တွင် ၊ နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre ဆက်စပ်ပါဝင်လာမည့်အဆောက်အဦးများကို နောက်ဆက်တွဲ(၂) တည်ဆောက်ရေး ကာလအတွင်းပြီးမြောက်အောင် ဆောင်ရွက်သွားပါမည်။ ဖော်ပြပါလုပ်ငန်းများ ဆောင်ရွက်မည့်စီမံချက် အသေးစိတ်ကို ဤသဘောတူစာချုပ်၏ နောက်ဆက်တွဲ (၃)ဖြင့်လည်းကောင်း ဖော်ပြထားပါသည်။

၃-၅ အငှားချထားခြင်းခံရသူသည် ဤစာချုပ်တွင်ပါရှိသည့်အတိုင်း ရပ်ရွာဒေသဖွံ့ဖြိုးရေးအတွက်လည်း အငှားချထားသူက လမ်းညွှန်ညှိနှိုင်းလာသည့်အတိုင်း လူမှုဝန်းကျင်ဆိုင်ရာတာဝန်ယူမှု Corporate Social Responsibility ကို(B.O.T) စာချုပ်အပိုဒ် (၁၈)ပါသတ်မှတ်ချက်များအတိုင်း မိမိတို့ဘက်မှ သဘောတူ လက်ခံဆောင်ရွက်သွားပါမည်။

## ၄။ မြေအသုံးချမှု အာမခံကြေးပေးသွင်းခြင်း၊ မြေငှားရမ်းခပေးသွင်းခြင်း

၄-၁ အငှားချထားခြင်းခံရသူသည် **မြေအသုံးချအမှုအာမခံကြေးငွေ**အဖြစ် တစ်ကေလျှင် မြန်မာကျပ်ငွေ (၁၀,၀၀၀/-ကျပ်တစ်သောင်း)နှုန်းဖြင့် မြေဧရိယာကေ(၁၀၀) ရှိသော ဘားလားကျွန်း(ခေါ်)သံယုတ်ကျွန်း အတွက် မြန်မာကျပ်ငွေ (၁,၀၀၀,၀၀၀/-) (ကျပ်ဆယ်သိန်းတိတိ )ကို ဤစာချုပ်ရေးထိုးသည့်နေ့တွင် အငှားချထား သူ၏ငွေစာရင်းခေါင်းစဉ်အမှတ် ( )သို့ သတ်မှတ်ထားသော နည်းလမ်းအတိုင်း ပေးသွင်းပါမည်။

၄-၂ အငှားချထားခြင်းခံရသူသည် မြေဧရိယာကေ(၁၀၀) ကေရှိသော ဘားလားကျွန်း(ခေါ်)သံယုတ်ကျွန်း အတွက် နှစ်စဉ်မြေငှားရမ်းခကို အောက်ပါအတိုင်းပေးသွင်းပါမည်။

(က) အသုံးပြုနိုင်သောမြေ

၂၅ ကေ/မြန်မာကျပ်ငွေ - ၂၀,၀၀၀နှုန်း - ၅၀၀,၀၀၀ ကျပ်

(ခ) အရန်ထားရှိသည့်မြေ

၂၅ ကေ/မြန်မာကျပ်ငွေ - ၅,၀၀၀နှုန်း - ၁၂၅,၀၀၀ ကျပ်

(ခ) အကာအကွယ်ပေးမည့်မြေ

၅၀ ကေ/မြန်မာကျပ်ငွေ - ၂,၀၀၀နှုန်း - ၁၀၀,၀၀၀ ကျပ်

**စုစုပေါင်းမြန်မာကျပ်ငွေ-** **၇၂၅,၀၀၀ ကျပ်**

**(ကျပ်ခုနစ်သိန်းနှစ်သောင်းငါးထောင်တိတိ)**

၄-၃ အငှားချထားခြင်းခံရသူသည် မြေအသုံးပြုခြင်းအတွက် နှစ်စဉ်မြေငှားရမ်းခ မြန်မာကျပ်ငွေ ၇၂၅,၀၀၀/- (ကျပ်ခုနစ်သိန်းနှစ်သောင်းငါးထောင်တိတိ) ကိုပေးသွင်းရပါမည်။

၄-၄ အငှားချထားခြင်းခံရသူသည် နှစ်စဉ်မြေငှားရမ်းခကို တစ်နှစ်လျှင်တစ်ကြိမ် တစ်လုံးတစ်ခဲတည်း ( Lump Sum ) ပေးချေပါမည်။ ပထမဆုံးအကြိမ် ငှားရမ်းခပေးချေမှုကို ဤသဘောတူစာချုပ်တွင်ပါရှိသည့် နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre များ တရားဝင်စတင်ဖွင့်လှစ်သည့်နေ့မှစ၍ ပေးချေရန်ဖြစ်ပါသည်။

၄-၅ အကယ်၍ ဟိုတယ်ဖွင့်လှစ်သည့်နေ့၊ ဝန်ဆောင်မှုများစတင်သည့်နေ့သည် သတ်မှတ်ရက်ထက် ကျော်လွန်ပါက၊ နှစ်စဉ်ငှားရမ်းခကို အဆိုပါတည်ဆောက်ရေးကာလပြီးဆုံးရန် သတ်မှတ်သည့်နေ့မှစတင်၍ ပေးချေရပါမည်။ ပထမအကြိမ်စတင်ပေးချေရမည့်ငွေမှာ မြန်မာကျပ်ငွေ(၇၂၅,၀၀၀/) (ကျပ်ခုနှစ်သိန်း နှစ်သောင်းငါးထောင်တိတိ) ဖြစ်ပါသည်။

၄-၆ အထက်အပိုဒ် ၄-၂၊ ၄-၃နှင့် ၄-၄ တို့တွင်ဖော်ပြထားသည့် နှစ်စဉ်မြေငှားရမ်းခကို ဤစာချုပ်ပါနိုင်ငံတကာအဆင့်မီ Diving Resort & Recreation Center များ **တရားဝင်စတင်ဖွင့်လှစ်သည့်နေ့**မှစ၍ တစ်လုံးတစ်ခဲတည်း ( Lump Sum ) ပေးချေရန်ဖြစ်ပါသည်။ ပေးချေရာ၌ အငှားချထားသူက ညွှန်ကြားသည့် သတ်မှတ်ထားသော ငွေစာရင်းခေါင်းစဉ်သို့ မပျက်မကွက်ပေးသွင်းရပါမည်။

၄-၇ မြေငှားရမ်းခပေးသွင်းရာတွင် ငွေပေးသွင်းမှု နောက်ကျပါက အငှားချထားခြင်းခံရသူသည် နောက်ကျကြေးအဖြစ် တစ်ရက်လျှင် မြန်မာကျပ်ငွေ (၅၀,၀၀၀/-) (ကျပ်ငါးသောင်းတိတိ) နှုန်းဖြင့် တွက်ချက်၍ ထပ်မံပေးသွင်းရပါမည်။

## ၅။ တည်ဆောက်ရေးကာလသတ်မှတ်ခြင်း

၅-၁ တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ရန်အတွက် ကနဦး ပတ်ဝန်းကျင်လေ့လာခြင်းနှင့် မြေတိုင်းတာခြင်းကာလကို ဤသဘောတူစာချုပ်(သို့မဟုတ်) မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်အပြီးသတ် လက်မှတ်ရေးထိုးသည့် နေ့မှစ၍ (၆)လ တာကာလ သတ်မှတ်ပါသည်။

၅-၂ တည်ဆောက်ရေးကာလကို အထက်ဖော်ပြပါ ကနဦးလေ့လာရေး (၆)လအပါအဝင် စုစုပေါင်း (၃၆)လ သတ်မှတ်၍ အပြီးအပြတ်ဆောင်ရွက်ရပါမည်။

၅-၃ တည်ဆောက်ရေးလုပ်ငန်းများသည် မလွန်ဆန်နိုင်သော အကြောင်းအရင်း တစုံတရာကြောင့် သတ်မှတ်ရက်အတွင်း မပြီးစီးနိုင်ပါက အငှားချထားသူထံသို့ အကြောင်းအရင်း ခိုင်လုံစွာဖြင့် အချိန်ကာလ ညှိနှိုင်းတိုးမြှင့်ပေးရန် ကြိုတင်အသနားခံစာဖြင့်ရေးသား၍ လျှောက်ထားနိုင်သည်။ သို့သော် အကြောင်းအရင်းခိုင်လုံမှုမရှိကြောင်း စစ်ဆေးတွေ့ရှိပါက အပိုဒ် (၄-၅) နှင့် (၅-၂) တွင်ဖော်ပြထားသည့် သတ်မှတ်ရက်မှ

စတင်၍ နှစ်စဉ်မြေငှားရမ်းခကို ချွင်းချက်မရှိ စတင်ပေးသွင်းရန်ဖြစ်သည်။

## ၆။ အငှားချထားသူ၏ တာဝန်များ

၆-၁ အငှားချထားသူသည် ဤသဘောတူစာချုပ်တွင်ပါရှိသော စည်းကမ်းချက်များနှင့်အညီ စတင်အကျိုးသက်ရောက်သည့်နေ့မှစ၍ အငှားချထားခြင်းခံရသူအနေဖြင့် လုပ်ငန်းများလုပ်ကိုင်ရာတွင် အနှောင့်အယှက်မရှိ အေးချမ်းစွာ လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိစေရမည်ဖြစ်ပါသည်။

၆-၂ အငှားချထားသူက လုပ်ငန်းအတွက် လိုအပ်သော သွင်းကုန်ပစ္စည်းများ စက်ပစ္စည်းများ၊ အပိုပစ္စည်းများ၊ အရံပစ္စည်းများနှင့် နည်းပညာအထောက်အကူပြုပစ္စည်းများ တင်သွင်းရာတွင် နိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုသည့် အခွန်ကင်းလွတ်ခွင့်၊ အခွန်သက်သာခွင့်တို့ကိုခံစားနိုင်ရန် ကူညီဆောင်ရွက်ပေးရပါမည်။

၆-၃ အငှားချထားသူသည် အငှားချထားခြင်းခံရသူက ပေးရန်ရှိသည့် နှစ်စဉ်မြေငှားရမ်းခများကို သတ်မှတ်ကာလအတွင်း မှန်ကန်စွာ ပေးသွင်းနိုင်ရန် ကြီးကြပ်ပေးရမည်။

၆-၄ အငှားချထားသူသည် မိမိကိုယ်တိုင်သော်လည်းကောင်း၊ မိမိကတရားဝင်တာဝန်ပေးအပ်သည့် လူပုဂ္ဂိုလ်၊ အဖွဲ့အစည်းများကိုသော်လည်းကောင်း၊ အငှားချထားခြင်းခံရသူ၏ လုပ်ငန်းဆောင်ရွက်မှုများကို ကြိုတင်အသိပေး အကြောင်းကြား၍ ကြည့်ရှုစစ်ဆေးနိုင်သည်။

## ၇။ အငှားချထားခြင်းခံရသူ၏ တာဝန်များ

၇-၁ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်တွင်ပါရှိသော စည်းကမ်းချက်များနှင့်အညီ သတ်မှတ်ထားသော လုပ်ငန်းများကို အချိန်မီပြီးစီးအောင် ဆောင်ရွက်ရမည်။

၇-၂ အငှားချထားခြင်းခံရသူသည် သတ်မှတ်ထားသော မြေငှားရမ်းခနှင့် အခြားအခွန်၊အခများကို အချိန်မီ မပျက်မကွက် ပေးသွင်းရမည်။ ထို့အတူ စာချုပ်တွင် ထမ်းဆောင်ရမည့် တံဆိပ်ခေါင်းများ၊ စာချုပ်မှတ်ပုံတင်ကိစ္စများကို တစ်ပါတည်းဆောင်ရွက်ရမည်။

၇-၃ အငှားချထားခြင်းခံရသူသည်ဤသဘောတူစာချုပ်ပါ လုပ်ငန်းမှအပ အခြားသောလုပ်ငန်း တစ်စုံတစ်ရာကို ငှားရမ်းသည့် မြေပေါ်တွင် လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုရ။

၇-၄ အငှားချထားခြင်းခံရသူသည် ငှားရမ်းသည့်ကာလအတွင်း အဆောက်အဦးများတိုးချဲ့ခြင်း၊ အရန်ထားရှိသည့်မြေနေရာကို အသုံးပြုလိုခြင်း စသည့်ပြောင်းလဲဆောင်ရွက်ရန် ကိစ္စများဖြစ်ပေါ်လာပါက

အငှားချထားသူ ထံသို့ စီမံချက်ရေးဆွဲ၍ အနည်းဆုံးရက်ပေါင်း (၃၀)ကြိုတင်အသိပေး၍ ခွင့်ပြုချက် ရယူရမည်။

၂-၅ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းများကို ဆောင်ရွက်ရာတွင် တဆင့်ငှားရမ်းခြင်း၊ အခြားသောပုဂ္ဂိုလ်/အဖွဲ့အစည်းတစ်ခုခုသို့ လွှဲပြောင်းလုပ်ကိုင်စေခြင်းမပြုရ။

၂-၆ အငှားချထားခြင်းခံရသူသည် ရင်းနှီးမြှုပ်နှံမှုတိုးချဲ့ခြင်း၊ အရင်းအနှီးငွေများရယူခြင်း၊ ချေးငွေများရယူခြင်း ကိစ္စများကို အငှားချထားသူထံ တရားဝင်စာဖြင့် ကြိုတင်အသိပေး၍ ခွင့်ပြုချက်ရယူ ဆောင်ရွက်သွားရမည်။

၂-၇ အငှားချထားခြင်းခံရသူသည် မြေကိုငှားရမ်းသုံးစွဲနေစဉ် ကာလအတွင်း ယင်းမြေမှ အဖိုးတန် ရတနာပစ္စည်းများ၊ ရေနံ၊ သတ္တုစသည့်အဖိုးတန် သယံဇာတပစ္စည်းများ ရရှိပါက မိမိလုပ်ငန်းများကို ဆက်လက်လုပ်ကိုင်ခြင်းမပြုပဲ ခေတ္တရပ်နားထားပြီး အငှားချထားသူထံသို့ ချက်ချင်း အသိပေးအကြောင်းကြားရမည်။

၂-၈ အငှားချထားခြင်းခံရသူသည် ဤစာချုပ်တွင်ပါရှိသည့်အတိုင်း ရပ်ရွာဒေသဖွံ့ဖြိုးရေးအတွက် အငှားချထားသူက လမ်းညွှန်ညှိနှိုင်းလာသည့်အတိုင်း လူမှုဝန်းကျင်ဆိုင်ရာ တာဝန်ယူမှု Corporate Social Responsibility ကို (B.O.T) စာချုပ်အပိုဒ် (၁၈)ပါ သတ်မှတ်ချက်များအတိုင်း မိမိဘက်မှ သဘောတူလက်ခံ ဆောင်ရွက်ရမည်။

၂-၉ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ် လက်မှတ်ရေးထိုးပြီးစီးသည့်နေ့မှစ၍ ရက်ပေါင်း(၃၆၅)ရက်အတွင်း လုပ်ငန်းများစတင်ဆောင်ရွက်ရပါမည်။

## ၈။ လုပ်ငန်းလည်ပတ်ခြင်းနှင့် စီမံခန့်ခွဲခြင်း

၈-၁ အငှားချထားသူသည် အငှားချထားခြင်းခံရသူက နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre များ လုပ်ကိုင်ခြင်း၊ စီမံခန့်ခွဲခြင်း စသည့်လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခြင်း တို့ကို သဘောတူခွင့်ပြုပါသည်။

၈-၂ နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre များ စတင် ဖွင့်လှစ်သည့်နေ့သည် ဤမြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ် (သို့မဟုတ်) တည်ဆောက်၊လုပ်ကိုင်၊ လွှဲပြောင်း ခြင်းဆိုင်ရာ (B.O.T ) သဘောတူစာချုပ်များ အပြီးသတ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ စုစုပေါင်းကာလ (၃၆)လကို မကျော်လွန်စေရပါ။

၈-၃ အငှားချထားခြင်းခံရသူသည် မူလသတ်မှတ်ထားသည့် မြေငှားသက်တမ်း ကုန်ဆုံးသည့်အခါ ဆက်လက်

ငှားရမ်းလုပ်ကိုင်လိုပါက တစ်ကြိမ်လျှင် (၁၀)နှစ်ကာလဖြင့် သက်တမ်း(၂)ကြိမ် ထက်မပိုမြှင့် လျှောက်ထားခွင့်ရှိပါသည်။

## ၃။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၃-၁ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုရာတွင် –မီးဘေး၊ ရေဘေး၊လေဘေး၊ မိုးကြိုး၊ မုန်တိုင်း၊ မြေပြိုခြင်း၊ မြေငလျင်၊ ရေလွှမ်းမိုးခြင်း၊ အစရှိသည့် သဘာဝဘေးအန္တရာယ်များကျရောက်ခြင်း၊ နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ခြင်း၊ ရောဂါဘယများဖြစ်ပွားခြင်း၊ အစရှိသည့် ကပ်ရောဂါများကျရောက်ခြင်း၊ ဆန္ဒပြမှု၊ ဆူပူနှောင့်ယှက်မှုများ၊ စစ်ပွဲဖြစ်ပွားခြင်း၊ ဆိပ်ကမ်းသို့ ပုံမှန်ဝင်/ထွက်ခွင့် တားမြစ်ပိတ်ပင်ခံရခြင်း၊ တော်လှန်ပုန်ကန်ခြင်း၊ ရှန်းရင်းဆန်ခတ်ဖြစ်ခြင်း၊ လုပ်ငန်းဆောင်ရွက်၍ မရနိုင်လောက်သည့် ဒေသန္တရ ဆူပူအုံကြွမှုများ စသည်တို့ပါဝင်ပြီး စာချုပ်ဝင်နှစ်ဦး၏ ပယောဂကြောင့် မဟုတ်ပဲဖြစ်ပွားသည့် အထက်ပါ အခြေအနေများ နှင့် ဖြစ်ရပ်များကိုဆိုလိုသည်။

၃-၂ အဆင့်မြင့်ဟိုတယ်တည်ဆောက်ခြင်း၊ လုပ်ငန်းလုပ်ဆောင်ခြင်း၊လုပ်ငန်းနှင့် စပ်လျဉ်းသည့် စီမံရေးရာ ကိစ္စရပ်များ ဆောင်ရွက်ခြင်းများတွင် အဆိုပါ မလွန်ဆန်နိုင်သောဖြစ်ရပ်များ ဖြစ်ပွားခြင်းကြောင့် လျော့ကျ နှောင့်နှေးတားဆီးခံရခြင်းများ၊ ဆုံးရှုံးထိခိုက်နစ်နာမှုများဖြစ်ပေါ်သဖြင့် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက် များအား အကောင်အထည်ဖော်မှုများကို သက်ရောက်မှုရှိခဲ့ပါက အဆိုပါ ဖြစ်ပွားခဲ့သည့် ကာလနှင့် သင့်လျော်သော ကာလတစ်ခုကို နှစ်ဦးနှစ်ဖက် အပြန်အလှန်ညှိနှိုင်း၍ သက်တမ်းတိုးမြှင့် သတ်မှတ် ခွင့်ရှိပါမည်၊ ဆုံးရှုံးနစ်နာမှု များဖြစ်ပေါ်လျှင် အငှားချထားခြင်းခံရသူသည် အငှားချထားသူထံသို့ နစ်နာဆုံးရှုံးမှု အတွက် လျော်ကြေးတောင်းခံခွင့်မရှိစေရ။

၃-၃ ဖော်ပြပါမလွန်ဆန်နိုင်သည့်ဖြစ်ရပ်ဖြစ်ပွားရသည်နှင့် စပ်လျဉ်း၍ မိမိတာဝန်ယူဆောင်ရွက်ရသည့် လုပ်ငန်းအပေါ် အကျိုးသက်ရောက်မှု တစ်စုံတစ်ရာ ဖြစ်ပေါ်လာပါက စာချုပ်ဝင်များအနေဖြင့် ဖြစ်ပွားသည့် နေ့မှ (၁၄)ရက် အတွင်းတစ်ဖက်စာချုပ်ဝင်ထံသို့ စာဖြင့်ရေးသားအကြောင်းကြားရမည်၊ တစ်ဖက်စာချုပ်ဝင်က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်ဖြစ်မြောက်သည်။ နှစ်ဖက်စာချုပ်ဝင်များသည် မလွန်ဆန်နိုင်သော ဖြစ်ရပ်သက်ရောက်ခြင်းမှ သက်သာခွင့်ရရှိစေရန်အလို့ငှာ ကျိုးကြောင်းဆီလျော်စွာ ညှိနှိုင်းတိုင်ပင်ဆောင်ရွက်ရမည်။

၁၀။ **အငြင်းပွားမှု ဖြေရှင်းခြင်း**

၁၀-၁ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့အကြား ဤသဘောတူစာချုပ်နှင့် စပ်လျဉ်း၍ အငြင်းပွားမှု တစ်စုံတစ်ရာ ဖြစ်ပေါ်လာပါက စာချုပ်ဝင် နှစ်ဦးနှစ်ဖက် ချစ်ခင် ငြိမ်းချမ်းသော နည်းလမ်းဖြင့် ညှိနှိုင်းဖြေရှင်းရမည်။

၁၀-၂ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့အကြား ဤသဘောတူစာချုပ်နှင့် စပ်လျဉ်း၍အငြင်းပွားမှု တစ်စုံတစ်ရာဖြစ်ပေါ်လာပါက၊ စာချုပ်ဝင်နှစ်ဦးနှစ်ဖက် ငြိမ်းချမ်းသောနည်းလမ်းဖြင့် ညှိနှိုင်းဖြေရှင်းရမည်။ အငြင်းပွားမှုအားငြိမ်းချမ်းစွာဖြေရှင်းမရပါက ဥပဒေနှင့်အညီ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏အဆုံးအဖြတ်ကို ခံယူရမည်။

၁၀-၃ ခုံရုံးတည်နေရာကို လုပ်ငန်းတည်နေရာဒေသဖြစ်သော တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့ဟု နှစ်ဦးသဘောတူ သတ်မှတ်ပါသည်။

၁၀-၄ အငြင်းပွားမှုကိုဖြေရှင်းရာတွင် အသုံးပြုသည့် ဘာသာစကားမှာ မြန်မာဘာသာစကားဖြစ်သည်။

၁၁။ **စာချုပ်အားပြင်ဆင်ခြင်း**

၁၁-၁ ဤသဘောတူစာချုပ်ကို ပြင်ဆင်လိုပါက နှစ်ဦးနှစ်ဘက်ညှိနှိုင်း၍ စာဖြင့်ရေးသားပြင်ဆင်နိုင်သည်။ ယင်းပြင်ဆင်ချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ ခွင့်ပြုချက် ရယူဆောင်ရွက်ရမည်။

၁၂။ **စာချုပ်ရပ်စဲခြင်း**

၁၂-၁ ဤသဘောတူစာချုပ်အား အောက်ဖော်ပြပါအကြောင်းတစ်ရပ်ကြောင့်ဖြစ်စေ၊ တစ်ခုထက်ပိုသော အကြောင်းများကြောင့်ဖြစ်စေ ဖြစ်ပေါ်လာပါက ရပ်စဲနိုင်သည်။

(က) စာချုပ်ဝင်များ နှစ်ဖက်အပြန်အလှန်သဘောတူညီချက်ဖြင့်ရပ်စဲခြင်း၊

(ခ) အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များကို ဆက်လက်အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန် မစွမ်းဆောင်နိုင်တော့ခြင်း၊

(ဂ) အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက် တစ်ရပ်ရပ်အား ချိုးဖောက်ခြင်း။

(ဃ) မလွန်ဆန်နိုင်သည့်ဖြစ်ရပ် ဖြစ်ပေါ်ခြင်းကာလသည် တစ်ဆက်တည်း (၆)လထက် ကျော်လွန်ဖြစ်ပွားနေခြင်း။

(င ) ဤမြေငှားရမ်းခြင်းစာချုပ်သည် လုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ကိုင်ခွင့်ရသူတို့၏ BOT စာချုပ် ၏ အစိတ်အပိုင်းတစ်ခုဖြစ်သည့် အားလျော်စွာ အဆိုပါ BOT စာချုပ်မှာ ဆက်လက်အကောင် အထည်ဖော် ဆောင်ရွက်နိုင်ခြင်း မရှိတော့ပါက ဤစာချုပ်မှာလည်း ရပ်စဲသွားခြင်း၊

(စ) အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့မှစ၍ လုပ်ငန်းများ စတင် ဆောင်ရွက်ရမည်ဖြစ်သော်လည်း တည်ဆောက်ရေးလုပ်ငန်းများကို လက်မှတ်ရေးထိုးသည့် နေ့မှစ၍ (၃၆၅)ရက်အတွင်း လုံးဝစတင်လုပ်ကိုင်မှုမရှိခြင်း။

၁၂-၂ ဤစာချုပ်ရပ်စဲပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အကြောင်းအရာ ပြည့်စုံစွာဖော်ပြလျက် တင်ပြရမည်။

၁၃။ မြေနှင့်အဆောက်အဦးများ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၁၃-၁ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ ငှားရမ်းကာလ ကုန်ဆုံးသည့် အခါဖြစ်စေ၊ သက်တမ်းတိုးမြှင့်သည့် ကာလကုန်ဆုံးသည့်အခါဖြစ်စေ (သို့မဟုတ်) ငှားရမ်းခြင်း ရပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့သက်တမ်းကုန်ဆုံးသည့်နေ့ (သို့မဟုတ်)ရပ်စဲသည့်နေ့မှ ရက်ပေါင်း (၃၀)အတွင်း ယင်းမြေပေါ်ရှိ အဆောက်အဦးအပါအဝင် ယင်းနှင့်ဆက်စပ်နေသော ပစ္စည်းများအားလုံး၊ ယင်းပစ္စည်းများတွင်တပ်ဆင်မည့် ပစ္စည်းကိရိယာများအပါအဝင်၊ အားလုံးကိုကောင်းမွန်စွာပုံမှန် အသုံး ပြုနိုင်သည့် အခြေအနေအတိုင်း အငှားချထားသူသို့ အဖိုးစားနားတစ်စုံတစ်ရာ မပါရှိပဲ ပြန်လည် လွှဲပြောင်း ပေးအပ်စေရမည်။

၁၄။ မြေနှင့်ဆောက်အဦးများသို့ ပြန်လည်ဝင်ရောက်ပိုင်ခွင့်

၁၄-၁ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါစည်းကမ်းချက် တစ်ရပ်ရပ်ကိုဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်ပါက အငှားချထားသူက ယင်းကဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာဆောင်ရွက်ရန် အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာဆောက်ရွက်ရန် ဆက်လက်ပျက်ကွက် နေပါက အငှားချထားသူသည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုထားသည့် မြေနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦးများ သို့ ပြန်လည်ဝင်ရောက်၍ လက်ဝယ်ရယူခွင့်ရှိသည်။ ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် အငှားချထားသူက အငှားချထားခြင်းခံရသူထံမှ ငှားရမ်းခ (သို့မဟုတ်) ပစ္စည်းဆုံးရှုံးမှုအတွက် လျော်ကြေး တောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

## ၂။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်း

၂-၁ အငှားချထားခြင်းခံရသူသည်ဤသဘောတူစာချုပ်ပါ ငှားရမ်းအသုံးပြုခွင့်ရသည့် မြေဧရိယာတစ်ခုလုံးကို မြန်မာနိုင်ငံ၏ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေပါပြဋ္ဌာန်းချက်များနှင့်အညီ ကာကွယ်စောင့်ရှောက်ရမည်။

၅-၂ အငှားချထားခြင်းခံရသူသည် ငှားရမ်းအသုံးပြုခွင့်ရရှိသည့် မြေဧရိယာပတ်ဝန်းကျင်၏ ရေထု၊ လေထုများအား သတ်မှတ်ထားသည့် စံနှုန်းများထက်ကျော်လွန်၍ ညစ်ညမ်းမှုမရှိအောင်ထိန်းသိမ်းခြင်း၊ တောတောင်၊ရေမြေ ဂေဟစနစ်များ မထိခိုက်မပျက်စီးအောင် ကာကွယ်ထိန်းသိမ်းစောင့်ရှောက်ခြင်းတို့ကို ပြုလုပ်ရမည်။

၅-၃ အငှားချထားခြင်းခံရသူသည် ရေဆိုးစွန့်ပစ်ခြင်း၊ စွန့်ပစ်အမှိုက်များနှင့်အညစ်အကြေးများကို စနစ်တကျ သိမ်းဆည်းရန် စီမံဆောင်ရွက်ခြင်း၊ သန့်စင်စနစ်များဖြင့် ဆောင်ရွက်ခြင်းတို့ကို အမြဲမပြတ်ဆောင်ရွက်ကာ သဘာဝပတ်ဝန်းကျင်အား မထိခိုက်အောင် ထိန်းသိမ်းစောင့်ရှောက်ရမည်။

## ၆။ သယံဇာတတွေ့ရှိခြင်း

၆-၁ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းအတွင်း အငှားချထားသည့် မြေပေါ်မြေအောက်မှ သယံဇာတ ပစ္စည်းများ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းသမိုင်းဝင်ပစ္စည်းများ၊ ဓါတ်သတ္တုများ၊ ရေနံ ၊ ဓာတု ဆိုင်ရာပစ္စည်းများ အပါအဝင် အဖိုးတန်သော သဘာဝအရင်းအမြစ်များ တွေ့ရှိပါက လုပ်ငန်းဆောင်ရွက်မှုကို ခေတ္တရပ်ဆိုင်းပြီး အငှားချထားသူထံ သင့်ရာနည်းဖြင့် ချက်ချင်းအကြောင်းကြား အသိပေးရမည်။ ထိုပစ္စည်းများကိုနိုင်ငံတော်ကပိုင်ဆိုင်ပြီး၊ နိုင်ငံတော်ကခွင့်ပြုလျှင် သုံးစွဲခွင့်ပြုသူနှင့် သက်ဆိုင်ရာ အဖွဲ့အစည်းက လွတ်လပ်စွာတူးဖော် ရယူခွင့်ရှိစေရမည်။

## ၁၇။ စာချုပ်သက်တမ်းနှင့်သက်တမ်းတိုးမြှင့်ခြင်း

၁၇-၁ ဤမြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူ စာချုပ်တို့သည် တစ်ခုနှင့်တစ်ခုအပြန်အလှန် အကျိုးသက်ရောက်မှုရှိသောကြောင့် သဘောတူစာချုပ် နှစ်ခုလုံး၏ သက်တမ်းမှာအပြီးသတ်လက်မှတ် ရေးထိုးသည့် (  -  -  )မှစ၍ စာချုပ်၏ အကျိုးသက်ရောက်သောရက်ကို စတင်သတ်မှတ်ပါသည်။

၁၇-၂ စာချုပ်များ၏ သက်တမ်းတိုးမြှင့်လိုပါက အငှားချထားခြင်းခံရသူသည် အငှားချထားသူထံ ယခု စာချုပ်၏ သက်တမ်းမကုန်ဆုံးမီ အနည်းဆုံး (၆) လကြိုတင်၍ သက်တမ်းတိုးမြှင့်ရန် စာဖြင့်ရေးသား လျှောက်ထား နိုင်သည်။

၁-၃ စာချုပ်သက်တမ်း တိုးမြှင့်ခြင်းကို တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် (၂)ကြိမ်အထိ သက်တမ်းတိုး မြှင့်နိုင်သည် သက်တမ်းတိုးမြှင့်မှုကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရယူဆောင်ရွက်ရမည်

၉။ ဒေသဖွံ့ဖြိုးရေးရန်ပုံငွေ

၉-၁ ဤသဘောတူစာချုပ် အပိုဒ် ၁-၃ ပါ နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre တရားဝင်ဖွင့်လှစ်သည့်နေ့မှစ၍ နှစ်စဉ်ရရှိသည့် အသားတင် အမြတ်ဝင်ငွေများထဲမှ (၂)ရာခိုင်နှုန်း (သို့မဟုတ်) ကြိုတင်၍ညှိနှိုင်းထားရှိသော တစ်နှစ် လျှင်မြန်မာကျပ်ငွေ စုစုပေါင်း- ၂၀,၀၀၀,၀၀၀/- (ကျပ်ငွေသိန်းနှစ်ရာတိတိ)အနက် များရာကို လုပ်ကိုင်ခွင့်ရသူက လူမှုဝန်းကျင် ဆိုင်ရာ တာဝန်ယူမှု Corporate Social Responsibility အဖြစ် လုပ်ကိုင်ခွင့်ပြုသူသို့ ပေးသွင်းရပါမည်။ ယင်းဒေသဖွံ့ဖြိုးရေးရန်ပုံငွေကို (၂)နှစ်လျှင် တစ်ကြိမ် နှစ်ဘက် ညှိနှိုင်းလျက် အတိုး အလျှော့ ပြုလုပ်ကြရန် ဖြစ်ပါသည်။

၉-၂ လုပ်ကိုင်ခွင့်ပြုသူသည် ပေးသွင်းလာသည့် ဒေသဖွံ့ဖြိုးရေးရန်ပုံငွေဖြင့် ယင်းဒေသတွင်း ဆောင်ရွက်သင့်သည့် ဖွံ့ဖြိုးရေး လုပ်ငန်းတစ်ရပ်ရပ်ကို ရွေးချယ်သတ်မှတ်ပြီး လုပ်ကိုင်ခွင့် ခံရသူအား တာဝန်ပေး၍ လုပ်ဆောင်စေနိုင်သည်။

၁၀။ အသိပေးခြင်း

၁၀-၁ စာချုပ်ဝင် နှစ်ဦးနှစ်ဘက်တို့သည် အောက်ပါဆက်သွယ်ရေးလမ်းကြောင်း အတိုင်းဆက်သွယ် အကြောင်းကြားရန်ဖြစ်ပါသည်။

(က) အကြောင်းကြားသည့် စနစ်များမှာစာဖြင့်လည်းကောင်း၊ တယ်လီဖုန်း၊ ဖက်(စ်)၊ အီးမေး(လ်) တို့ဖြင့်လည်းကောင်း၊ လူကိုယ်တိုင်တွေ့ဆုံခြင်းဖြင့်လည်းကောင်း၊ အထူး ဆက်သားဖြင့် ဆက်သွယ်၍ လည်းကောင်း အကြောင်းကြားဆက်သွယ်ရန် ဖြစ်ပါသည်။

(ခ) ဆက်သွယ်ရန်လိပ်စာ

<u>အငှားချထားသူ</u>

| | | |
|---|---|---|
| အမည် | - | ဦးတင်သိန်း |
| မှတ်ပုံတင်အမှတ် | - | ၇/တနေ (နိုင်)၀၀၆၀၆၇ |
| လိပ်စာ | - | အတွင်းရေးမှူး<br>တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့<br>ထားဝယ်မြို့။ |
| ဖုန်းနံပါတ် | - | (၉၅)-၅၉-၂၃၅၅၆၊ ၀၉-၈၇၆၀၁၅၅ |
| ဖက်(စ်) | - | (၉၅)-၅၉-၂၃၆၀၀ |

အငှားချထားခြင်းခံရသူ

| | | |
|---|---|---|
| အမည် | - | ဦးဝင်းအောင် |
| မှတ်ပုံတင်အမှတ် | - | ၁၂၊ပဗတ(နိုင်)၀၂၈၇၃၂ |
| လိပ်စာ | - | အမှတ် ၁၀၊ အင်းလျားရိပ်သာလမ်း<br>မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| ဖုန်းနံပါတ် | - | (၉၅)-၁-၆၅၇၀၅၀၊ ၀၉-၅၁၄၇၂၀၁ |
| အီးမေး(လ်) | - | winaun g66@gmail.com |

၁။ အထွေထွေ

၁-၁ ဤစာချုပ်နှင့်ပူးတွဲထားသည့် နောက်ဆက်တွဲများသည် ဤစာချုပ်၏တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်

၁-၂ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် အထက်ပါစည်းကမ်းချက်များ၊ အချက်အလက်များကို သဘောတူညီကြပြ ဖြစ်သည့်အလျောက် ၂၀၁၅ခုနှစ်၊ လ၊ ရက်နေ့တွင် အောက်ပ အသိသက်သေများ၏ ရှေ့မှောက်၌ သဘောတူစာချုပ်ချုပ်ဆို၍ လက်မှတ်ရေးထိုးကြပါသည်။

| အငှားချထားသူ | အငှားချထားခြင်းခံရသူ |
|---|---|
| ဦးတင်သိန်း | ဦးဝင်းအောင် |
| အတွင်းရေးမှူး | မန်နေဂျင်းဒါရိုက်တာ |
| တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ | Amata International Co.Ltd. |
| ထားဝယ်မြို့။ | ရန်ကုန်တိုင်းဒေသကြီး |
| ရက်စွဲ။ ။ | ရက်စွဲ။ ။ |

အသိသက်သေများ

| | | | | | |
|---|---|---|---|---|---|
| လက်မှတ် | - | ---------------- | လက်မှတ် | - | ---------------- |
| အမည် | - | ---------------- | အမည် | - | ---------------- |
| မှတ်ပုံတင် | - | ---------------- | မှတ်ပုံတင် | - | ---------------- |
| လိပ်စာ | - | ---------------- | လိပ်စာ | - | ---------------- |
| | | ---------------- | | | ---------------- |
| ရက်စွဲ | - | ---------------- | ရက်စွဲ | - | ---------------- |

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်
တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

နှင့်

# Amata International Co., Ltd

တို့အကြား

ချုပ်ဆိုသော
ဖိုးနီကျွန်း (ခ) ဗိုလ်ရာညွန့်ကျွန်း
Diving Resort & Recreation Centre
တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ
သဘောတူစာချုပ်(B.O.T)
(မူကြမ်း)

ရက်စွဲ ။ ။ ၂၀၁၅ ခုနှစ်၊ လ၊ ရက်။

, တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

နှင့်

**Amata International Co.,Ltd.**

တို့အကြား

ချုပ်ဆိုသော တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်း

**ဆိုင်ရာသဘောတူစာချုပ် (BOT) (မူကြမ်း)**

ဤတည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းသဘောတူစာချုပ်ကို ၂၀၁၅ ခုနှစ်၊ လ၊ ( )ရက်နေ့၌၊ ထားဝယ်မြို့တွင် ဦးတင်သိန်း၊ အတွင်းရေးမှူး၊ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ထားဝယ်မြို့၊ နောင်တွင် "**လုပ်ကိုင်ခွင့်ပြုသူ**" ဟုခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများ ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည် ) ကတဖက်

နှင့်

ဦးဝင်းအောင်၊ နိုင်ငံသားစိစစ်ရေးအမှတ်(၁၂/ပဇတ(နိုင်)၀၂၈၇၃၂) ၊ မန်နေဂျင်းဒါရိုက်တာ Amata International Co.,Ltd. ကိုယ်စားပြုသော၊ အမှတ်(၁၀) အင်းလျားရိပ်သာလမ်း၊မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် တည်ရှိသော Amata International Co.,Ltd. နောင်တွင် "**လုပ်ကိုင်ခွင့်ရသူ**" ဟုခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်) ကအခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များ အားသဘောတူညီသဖြင့် ဤတည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်ကို ချုပ်ဆိုကြပါသည်။

ရည်ရွယ်ချက်

တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ မြိတ်ကျွန်းစုအတွင်းရှိ မြေဧရိယာအကျယ်အဝန်းဧက (၁၀၀) ရှိသော ဖိုးနီကျွန်း(ခ)ပိုလ်ရာညွှန့်ကျွန်းအား ငှားရမ်း၍ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစားပေးအဆင့်မြင့် Diving Resort & Recreation Centre ဆောက်လုပ်အကောင်အထည်ဖော်ဆောင်ရွက်ရန် ဤတည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်ကို ချုပ်ဆိုခြင်းဖြစ်ပါသည်။

## ၁။ အဓိပ္ပါယ်ဖွင့်ဆိုချက်များ

### ၁-၁ သဘောတူစာချုပ်

သဘောတူစာချုပ်ဆိုသည်မှာ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊မြိတ်ကျွန်းစု အတွင်းရှိ ဖိုးနီကျွန်း(ခေါ်)ဗိုလ်ရာညွှန့်ကျွန်း မြေပုံညွှန်းအမှတ် UTM -1098/03-MM(A-147569, B- 155568, C-156566, D-149560, E-147560) မြေဧရိယာ (၁၀၀) ဧကအား ငှားရမ်း၍ Amata Intenational Co.,Ltd. မှ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနပေး၊ နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre ဆောက်လုပ် အကောင်အထည်ဖော် ဆောင်ရွက်သွားမည့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ ဤသဘောတူစာချုပ်ကိုဆိုသည်။

(မြေပုံများကို ဤစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်အဖြစ် နောက်ဆက်တွဲ (၁) ဖြင့် ဤစာချုပ်တွင် ပူးတွဲထားပါသည်။ )

### ၁-၂ ဘဏ္ဍာရေးနှစ်

ဘဏ္ဍာရေးနှစ်ဆိုသည်မှာ နှစ်တစ်နှစ်၏ ဧပြီလ(၁)ရက်နေ့မှ နောက်တစ်နှစ်မတ်လ (၃၁)ရက်နေ့အထိ (၁၂)လ တာကာလကိုဆိုသည်။

### ၁-၃ နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre တရားဝင်ဖွင့်လှစ်သည့်နေ့

နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre တရားဝင်ဖွင့်လှစ်သည့်နေ့ဆိုသည်မှာ ဟိုတယ်အဆောက်အဦးများဆောက်လုပ်ပြီးစီး၍ လုပ်ငန်းများစတင်လည်ပတ်ပြီး၊ ဝန်ဆောင်မှု လုပ်ငန်းများ စတင်လက်ခံဆောင်ရွက်သည့်နေ့ကိုဆိုသည်။

### ၁-၄ အသုံးပြုနိုင်သောမြေ

အသုံးပြုနိုင်သော မြေဆိုသည်မှာ နိုင်ငံတကာအဆင့်မြင့် ဟိုတယ်လုပ်ငန်း၊ နှင့်ဆက်စပ်လုပ်ငန်းများ လုပ်ကိုင် ဆောင်ရွက်ရန် သတ်မှတ်ထားသော မြေနေရာကိုဆိုသည်။

### ၁-၅ အရန်ထားရှိသည့်မြေ

အရန်ထားရှိသည့်မြေဆိုသည်မှာ လက်ရှိအခြေအနေတွင် မည်သည့်လုပ်ငန်းကိုမျှ လုပ်ကိုင် ဆောင်ရွက်ခြင်းမပြုပဲ နောင်တစ်ချိန်တွင် အသုံးပြုလိုပါက အသုံးပြုနိုင်သောမြေအဖြစ်သို့ ပြောင်းလဲ၍ ခွင့်ပြုချက်ရယူ ဆောင်ရွက်ရန် သတ်မှတ်ထားသောမြေကိုဆိုသည်။

### ၁-၆ အကာအကွယ်ပေးထားသည့်မြေ

အကာအကွယ်ပေးထားသည့်မြေဆိုသည်မှာ အရန်ထားရှိသည့်မြေ၊ အသုံးပြုနိုင်သောမြေအဖြစ်သို့ မည်သည့် အခါမှ မရောက်စေဘဲ၊ ငှားရမ်းသည့်ကာလတစ်လျှောက်လုံးတွင် သဘာဝပတ်ဝန်းကျင် ဂေဟစနစ်ကို မူလအတိုင်း ထိန်းသိမ်းထားရှိရမည့်မြေကိုဆိုသည်။

## ၁-၇ ထပ်မံဖြည့်ဆည်းမည့် အစိတ်အပိုင်းများ

ထပ်မံဖြည့်ဆည်းမည့် အစိတ်အပိုင်းများဆိုသည်မှာ ငှားရမ်းမြေပေါ်တွင် နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre ဆောင်ရွက်ရာတွင်ပါဝင်မည့် ကနဦးဆောင်ရွက်သည့် အစိတ်အပိုင်းများ ဆက်လက်ဆောင်ရွက်သွားမည့်လုပ်ငန်းများ ထပ်မံဖြည့်စွက်သည့်လုပ်ငန်းများ တည်ဆောက်ရေးလုပ်ငန်းများအားလုံးကိုဆိုသည်။

## ၂။ ရင်းနှီးမြှုပ်နှံမည့်ငွေကြေးပမာဏ

၂-၁ ဤသဘောတူ စာချုပ်ပါ လုပ်ငန်းအတွက် ရင်းနှီးလုပ်ကိုင်မည့် ငွေကြေးပမာဏမှာ ဖိုးနီကျွန်း(ခေါ်) ဗိုလ်ရာညွှန့်ကျွန်းအတွက် အမေရိကန်ဒေါ်လာ (၅)သန်းဖြင့် ရင်းနှီးမြှုပ်နှံသွားမည်ဖြစ်ပါသည်။ အဆိုပါ ရင်းနှီးမြှုပ်နှံမှုပမာဏကို လုပ်ကိုင်ခွင့်ရသူမှ ကျခံသုံးစွဲသွားပါမည်။ လုပ်ငန်းလိုအပ်ချက်အရ ရင်းနှီးမြှုပ်နှံမှုပမာဏ ပြောင်းလဲပြင်ဆင်ရန်လိုအပ်ပါက လုပ်ကိုင်ခွင့်ရသူသည် လုပ်ကိုင်ခွင့်ပြုသူနှင့် ညှိနှိုင်းပြီးနောက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ ကော်မရှင်၏ခွင့်ပြုချက်နှင့်အညီ ဆောင်ရွက်ရပါမည်။

## ၃။ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

၃-၁ လုပ်ကိုင်ခွင့်ပြုသူသည် ဤစာချုပ်တွင် ဖော်ပြထားသော တနင်္သာရီတိုင်းဒေသကြီး ကော့သောင်းခရိုင်၊ မြိတ်ကျွန်းစုအတွင်းရှိ မြေဧရိယာဧက (၁၀၀) ဧကတွင် ဖိုးနီကျွန်း(ခေါ်) ဗိုလ်ရာညွှန့်ကျွန်းဟု ခေါ်တွင်သည့် ကျွန်းတစ်ကျွန်းလုံး၏ မြေယာစီမံခန့်ခွဲမှုကိစ္စရပ်များကို တရားဝင်စီမံခန့်ခွဲပိုင်ဆိုင်ခွင့်ရှိသော အာဏာပိုင်အဖွဲ့အစည်းဖြစ်ပါသည်။

၃-၂ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါအရပ်ဒေသရှိ ဖော်ပြပါကျွန်းပေါ်တွင် မြေဧရိယာဧက (၁၀၀) အား နှစ်ရှည်ငှားရမ်းရန်နှင့် အဆင့်မြင့် Diving Resort & Recreation Centre လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရန် ငွေကြေးအင်အား၊ ပစ္စည်းအင်အားနှင့်အတတ်ပညာအင်အားများ ရှိပြီး စာချုပ်ပါအတိုင်း ဆောင်ရွက်နိုင်စွမ်းရှိသူဖြစ်ပါသည်။

## ၄။ မြေငှားရမ်းခြင်းကာလသတ်မှတ်ခြင်းနှင့် ဖွံ့ဖြိုးမှုဆောင်ရွက်ခြင်း။

၄-၁ လုပ်ကိုင်ခွင့်ပြုသူသည် ဤသဘောတူစာချုပ်၊ အပိုဒ် (၁-၁)ပါကော့သောင်းခရိုင်၊ မြိတ်ကျွန်းစု အတွင်းရှိ မြေဧရိယာ အကျယ်အဝန်းဧက (၁၀၀)ဧက၊ ရှိသော ဖိုးနီကျွန်း(ခေါ်) ဗိုလ်ရာညွှန့်ကျွန်းကို လုပ်ပိုင်ခွင့်ရသူထံသို့ နှစ်ရှည်ငှားရမ်း၍၊ ၎င်းမြေပေါ်တွင် နိုင်ငံတာအဆင့်မီ Diving Resort & Recreation Centre များ လုပ်ကိုင်ဆောင်ရွက်ရန် သဘောတူညီပါသည်။

၃-၂ လုပ်ကိုင်ခွင့်ပြုသူသည် လုပ်ကိုင်ခွင့်ရသူထံသို့ ဤသဘောတူစာချုပ်၊ အပိုဒ်(၁-၁) ပါ ကော့သောင်းခရိုင်၊ မြိတ်ကျွန်းစုအတွင်းရှိ မြေဧရိယာအကျယ်ဝန်း ဧက (၁၀၀) ရှိသော ဖိုးနီကျွန်း(ခေါ်) ဗိုလ်ရာညွှန့်ကျွန်းကို၊ ဤသဘောတူစာချုပ်လက်မှတ်၊ ရေးထိုးသည့်နေ့မှစ၍ နှစ်ပေါင်း(၅၀) ငှားရမ်း အသုံးပြုရန်ခွင့်ပြုပါသည်။ သက်တမ်းပြည့်သည့်အခါ လုပ်ကိုင်ခွင့်ရသူသည် ဆက်လက်ငှားရမ်းခြင်း၊ လုပ်ကိုင်ဆောင်ရွက်လိုပါက နောက်ထပ်တစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့် (၂)ကြိမ် ဆက်လက်ငှားရမ်း သုံးစွဲခွင့်ပြုရန် တင်ပြဆောင်ရွက်ခွင့်ရှိပါသည်။

၃-၃ လုပ်ကိုင်ခွင့်ရသူသည် သက်တမ်းပြည့်သည့်အခါ ဆက်လက်၍ငှားရမ်းလုပ်ကိုင် ဆောင်ရွက်လိုပါက သက်တမ်းမစေ့ရောက်မီ အနည်းဆုံး(၆)လကြိုတင်၍ လျှောက်ထားရပါမည်။

လုပ်ကိုင်ခွင့်ရသူသည် ငှားရမ်းရရှိသည့်မြေပေါ်တွင် Diving Resort & Recreation Centre အတွက် ဆက်စပ်ပါဝင်လာမည့် အဆောက်အဦးများကို နောက်ဆက်တွဲ(၂) ဖြင့်လည်းကောင်း၊ သတ်မှတ်သည့် တည်ဆောက်ရေးကာလအတွင်း ပြီးမြောက်အောင်ဆောင်ရွက်သွားပါမည်။ ဖော်ပြပါလုပ်ငန်းများ ဆောင်ရွက်မည့်စီမံချက်အသေးစိတ်ကို ဤသဘောတူစာချုပ်၏ နောက်ဆက်တွဲ(၃) ဖြင့် လည်းကောင်း ဖော်ပြထားပါသည်။

၃-၃ လုပ်ကိုင်ခွင့်ရသူသည် ဤစာချုပ်တွင်ပါရှိသည့်အတိုင်း ရပ်ရွာဒေသဖွံ့ဖြိုးရေးအတွက်လည်း လုပ်ကိုင်ခွင့်ပြုသူက လမ်းညွှန်ညှိနှိုင်းလာသည့်အတိုင်း လူမှုဝန်းကျင်ဆိုင်ရာတာဝန်ယူမှု Corporate Social Responsibility ကို စာချုပ်အပိုဒ် (၁၈)ပါသတ်မှတ်ချက်များအတိုင်း မိမိတို့ဘက်မှ သဘောတူ လက်ခံဆောင်ရွက်သွားပါမည်။

**၄။ မြေအသုံးချမှု အာမခံကြေးပေးသွင်းခြင်း၊ မြေငှားရမ်းခပေးသွင်းခြင်း**

၄-၁ လုပ်ကိုင်ခွင့်ရသူသည် မြေအသုံးချအမှုအာမခံကြေးငွေအဖြစ် တစ်ဧကလျှင် မြန်မာကျပ်ငွေ (၁၀,၀၀၀/- ကျပ်တစ်သောင်း)နှုန်းဖြင့် မြေဧရိယာဧက(၁၀၀) ရှိသော ဖိုးနီကျွန်း(ခေါ်) ဗိုလ်ရာညွှန့်ကျွန်း အတွက် မြန်မာကျပ်ငွေ (၁,၀၀၀,၀၀၀/-) (ကျပ်ဆယ်သိန်းတိတိ ) ကို ဤစာချုပ် ရေးထိုးသည့် နေ့တွင် လုပ်ကိုင်ခွင့်ပြုသူ၏ ငွေစာရင်းခေါင်းစဉ်အမှတ် ( ) သို့သတ်မှတ်ထားသော နည်းလမ်းအတိုင်းပေးသွင်းပါမည်။

၄-၂ လုပ်ကိုင်ခွင့်ရသူသည် မြေဧရိယာဧက (၁၀၀) ဧကရှိသော ဖိုးနီကျွန်း(ခေါ်) ဗိုလ်ရာညွှန့်ကျွန်းအတွက် နှစ်စဉ်မြေငှားရမ်းခကို အောက်ပါအတိုင်းပေးသွင်းပါမည်။

| | | | |
|---|---|---|---|
| (က) | အသုံးပြုနိုင်သောမြေ | | |
| | ၂၅ ကေ/မြန်မာကျပ်ငွေ | - ၂၀,၀၀၀နှုန်း | - ၅၀၀,၀၀၀ ကျပ် |
| (ခ) | အရန်ထားရှိသည့်မြေ | | |
| | ၂၅ ကေ/မြန်မာကျပ်ငွေ | - ၅,၀၀၀နှုန်း | - ၁၂၅,၀၀၀ ကျပ် |
| (ခ) | အကာအကွယ်ပေးမည့်မြေ | | |
| | ၅၀ ကေ/မြန်မာကျပ်ငွေ | - ၂,၀၀၀နှုန်း | - ၁၀၀,၀၀၀ ကျပ် |
| စုစုပေါင်းမြန်မာကျပ်ငွေ - | | | ၇၂၅,၀၀၀ ကျပ် |
| | | | (ကျပ်ခုနှစ်သိန်းနှစ်သောင်းငါးထောင်တိတိ) |

လုပ်ကိုင်ခွင့်ရသူသည် မြေအသုံးပြုခြင်းအတွက် နှစ်စဉ်မြေငှားရမ်းခ မြန်မာကျပ်ငွေ (၇၂၅,၀၀၀/) (ကျပ်ခုနှစ်သိန်းနှစ်သောင်းငါးထောင်တိတိ) ကိုပေးသွင်းရပါမည်။

၃ လုပ်ကိုင်ခွင့်ရသူသည် နှစ်စဉ်မြေငှားရမ်းခကို တစ်နှစ်လျှင်တစ်ကြိမ် တစ်လုံးတစ်ခဲတည်း( Lump Sum) ပေးချေပါမည်။ ပထမဆုံးအကြိမ် ငှားရမ်းခပေးချေမှုကို ဤသဘောတူစာချုပ်တွင် ပါရှိသည့် နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre တရားဝင် စတင်ဖွင့်လှစ်သည့်နေ့မှစ၍ ပေးချေရန်ဖြစ်ပါသည်။

၄ အကယ်၍ ဟိုတယ်ဖွင့်လှစ်သည့်နေ့၊ ဝန်ဆောင်မှုများစတင်သည့်နေ့သည် သတ်မှတ်ရက်ထက် ကျော်လွန်ပါက၊ နှစ်စဉ်ငှားရမ်းခကို အဆိုပါ တည်ဆောက်ရေးကာလပြီးဆုံးရန် သတ်မှတ်သည့်နေ့မှ စတင်၍ပေးချေရပါမည်။ ပထမအကြိမ်စတင်ပေးချေရမည့်ငွေမှာ မြန်မာကျပ်ငွေ( ၇၂၅,၀၀၀/) (ကျပ်ခုနှစ်သိန်းနှစ်သောင်းငါးထောင်တိတိ) ဖြစ်ပါသည်။

၅ အထက်အပိုဒ် ၅-၂၊ ၃-၃နှင့် ၅-၄ တို့တွင်ဖော်ပြထားသည့် နှစ်စဉ်မြေငှားရမ်းခကို ဤစာချုပ်ပါ နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Center များ **တရားဝင်စတင်ဖွင့်လှစ်သည့်နေ့** မှစ၍ တစ်လုံးတစ်ခဲတည်း (Lump Sum) ပေးချေရန်ဖြစ်ပါသည်။ ပေးချေရာ၌ လုပ်ကိုင်ခွင့်ပြုသူက ညွှန်ကြားသည့် သတ်မှတ်ထားသော ငွေစာရင်းခေါင်းစဉ်သို့ မပျက်မကွက် ပေးသွင်းရပါမည်။

၆ မြေငှားရမ်းခပေးသွင်းရာတွင် ငွေပေးသွင်းမှုနောက်ကျပါက လုပ်ကိုင်ခွင့်ရသူသည် နောက်ကျကြေး အဖြစ် တစ်ရက်လျှင် မြန်မာကျပ်ငွေ (၅၀,၀၀၀/-) (ကျပ်ငါးသောင်းတိတိ) နှုန်းဖြင့် တွက်ချက်၍ ထပ်မံ ပေးသွင်းရပါမည်။

**တည်ဆောက်ရေးကာလသတ်မှတ်ခြင်း**

-၁ တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ရန်အတွက် ကနဦးပတ်ဝန်းကျင်လေ့လာခြင်းနှင့် မြေတိုင်းတာခြင်းကာလကို ဤသဘောတူစာချုပ် (သို့မဟုတ်) မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၆)လတာကာလ သတ်မှတ်ပါသည်။

-၂ တည်ဆောက်ရေးကာလကို အထက်ဖော်ပြပါ ကနဦးလေ့လာရေး (၆)လအပါအဝင် စုစုပေါင်း (၃၆)လ သတ်မှတ်၍ အပြီးအပြတ် ဆောင်ရွက်ရပါမည်။

-၃ တည်ဆောက်ရေးလုပ်ငန်းများသည် မလွန်ဆန်နိုင်သောအကြောင်းအရင်း တစ်စုံတစ်ရာကြောင့် သတ်မှတ် ရက်အတွင်း မပြီးစီးနိုင်ပါက လုပ်ကိုင်ခွင့်ပြုသူထံသို့ အကြောင်းအရင်းခိုင်လုံစွာဖြင့် အချိန်ကာလ ညှိနှိုင်းတိုးမြှင့်ပေးရန် ကြိုတင်အသနားခံစာဖြင့်ရေးသား၍ လျှောက်ထားနိုင်သည်။ သို့သော် အကြောင်းအရင်းခိုင်လုံမှုမရှိကြောင်း စစ်ဆေးတွေ့ရှိပါက အပိုဒ်(၅-၅) နှင့် (၆-၂) တွင် ဖော်ပြထားသည့် သတ်မှတ်ရက်မှစတင်၍ နှစ်စဉ်မြေငှားရမ်းခကို ချွင်းချက်မရှိ စတင်ပေးသွင်းရန်ဖြစ်သည်။

၄ **လုပ်ကိုင်ခွင့်ပြုသူ၏ တာဝန်များ**

၄-၁ လုပ်ကိုင်ခွင့်ပြုသူသည် ဤသဘောတူစာချုပ်တွင်ပါရှိသော စည်းကမ်းချက်များနှင့်အညီ စတင်အကျိုးသက်ရောက်သည့်နေ့မှစ၍ လုပ်ကိုင်ခွင့်ရသူအနေဖြင့် လုပ်ငန်းများလုပ်ကိုင်ရာတွင် အနှောင့်အယှက်မရှိ အေးချမ်းစွာလုပ်ကိုင်ဆောင်ရွက်ခွင့် ရှိစေရမည်ဖြစ်ပါသည်။

၄-၂ လုပ်ကိုင်ခွင့်ရသူက လုပ်ငန်းအတွက်လိုအပ်သော သွင်းကုန်ပစ္စည်းများ၊ စက်ပစ္စည်းများ၊ အပိုပစ္စည်းများ၊ အရံပစ္စည်းများနှင့် နည်းပညာအထောက်အကူပြုပစ္စည်းများ တင်သွင်းရာတွင် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုသည့် အခွန်ကင်းလွတ်ခွင့်၊ အခွန်သက်သာခွင့်တို့ကို ခံစားနိုင်ရန် ကူညီဆောင်ရွက်ပေးရပါမည်။

၄-၃ လုပ်ကိုင်ခွင့်ပြုသူသည် လုပ်ကိုင်ခွင့်ရသူကပေးရန်ရှိသည့် နှစ်စဉ်မြေငှားရမ်းခများကို သတ်မှတ်ကာလအတွင်း မှန်ကန်စွာပေးသွင်းနိုင်ရန် ကြီးကြပ်ပေးရမည်။

၄-၄ လုပ်ကိုင်ခွင့်ပြုသူသည် မိမိကိုယ်တိုင်သော်လည်းကောင်း၊ မိမိကတရားဝင်တာဝန်ပေးအပ်သည့် လူပုဂ္ဂိုလ်၊ အဖွဲ့အစည်းများကိုသော်လည်းကောင်း၊ လုပ်ကိုင်ခွင့်ရသူ၏ လုပ်ငန်းဆောင်ရွက်မှုများကို ကြိုတင် အသိပေးအကြောင်းကြား၍ ကြည့်ရှုစစ်ဆေးနိုင်သည်။

**လုပ်ကိုင်ခွင့်ရသူ၏ တာဝန်များ**

၁ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်တွင်ပါရှိသော စည်းကမ်းချက်များနှင့်အညီ သတ်မှတ်ထားသောလုပ်ငန်းများကို အချိန်မှီပြီးစီးအောင် ဆောင်ရွက်ရမည်။

၂ လုပ်ကိုင်ခွင့်ရသူသည် သတ်မှတ်ထားသော မြေငှားရမ်းခနှင့် အခြားအခွန်အခများကိုအချိန်မှီ မပျက်မကွက်ပေးသွင်းရမည်။ ထို့အတူ စာချုပ်တွင်ထမ်းဆောင်ရမည့် တံဆိပ်ခေါင်းများ၊ စာချုပ်မှတ်ပုံတင်ကိစ္စများကို တစ်ပါတည်းဆောင်ရွက်ရမည်။

၃ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းမှအပ အခြားသောလုပ်ငန်းတစ်စုံတစ်ရာကို ငှားရမ်းသည့်မြေပေါ်တွင် လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုရ။

၄ လုပ်ကိုင်ခွင့်ရသူသည် ငှားရမ်းသည့်ကာလအတွင်း အဆောက်အဦးများ တိုးချဲ့ခြင်း၊ အရန် ထားရှိထားသည့်မြေနေရာကို အသုံးပြုလိုခြင်းစသည့်ပြောင်းလဲဆောင်ရွက်ရန်ကိစ္စများ ဖြစ်ပေါ်လာပါက လုပ်ကိုင်ခွင့်ပြုသူထံသို့ စီမံချက်ရေးဆွဲ၍ အနည်းဆုံးရက်ပေါင်း (၃၀) ကြိုတင်အသိပေး၍ ခွင့်ပြုချက်ရယူရမည်။

၅ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းများကို ဆောင်ရွက်ရာတွင် တဆင့် ငှားရမ်းခြင်း၊ အခြားသောလူပုဂ္ဂိုလ် / အဖွဲ့အစည်းတစ်ခုခုသို့ လွှဲပြောင်းလုပ်ကိုင်စေခြင်း မပြုရ။

၆ လုပ်ကိုင်ခွင့်ရသူသည် ရင်းနှီးမြှုပ်နှံမှုတိုးချဲ့ခြင်း၊ အရင်းအနှီးငွေများရယူခြင်း၊ ချေးငွေများရယူခြင်းကိစ္စများကို လုပ်ကိုင်ခွင့်ပြုသူထံ တရားဝင်စာဖြင့် ကြိုတင်အသိပေး၍ ခွင့်ပြုချက်ရယူဆောင်ရွက်သွားရမည်။

၇ လုပ်ကိုင်ခွင့်ရသူသည် မြေကိုငှားရမ်းသုံးစွဲနေစဉ်ကာလအတွင်း ယင်းမြေမှ အဖိုးတန်ရတနာပစ္စည်းများ၊ ရေနံ၊ သတ္တုစသည့် အဖိုးတန်သံယံဇာတပစ္စည်းများရရှိပါက မိမိလုပ်ငန်းများကို ဆက်လက်လုပ်ကိုင်ခြင်းမပြုဘဲ အသိပေးအကြောင်းကြားရမည်။

၈ လုပ်ကိုင်ခွင့်ရသူသည် လုပ်ကိုင်ခွင့်ပြုသူက ကြိုတင်အသိပေးအကြောင်းကြား၍ လုပ်ငန်းဆောင်ရွက်မှုများကို လာရောက်ကြည့်ရှုစစ်ဆေးသည့်အခါ စစ်ဆေးမှုကိုခံယူ၍ ညွှန်ကြား သည့်အတိုင်း ညှိနှိုင်းအကောင်အထည်ဖော် ဆောင်ရွက်ပေးရပါမည်။

၉ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးပြီးသည့်နေ့မှစ၍ ရက်ပေါင်း (၃၆၅)ရက်အတွင်း လုပ်ငန်းများစတင်ဆောင်ရွက်ရပါမည်။

## လုပ်ငန်းလည်ပတ်ခြင်းနှင့် စီမံခန့်ခွဲခြင်း

၁ လုပ်ကိုင်ခွင့်ပြုသူသည် လုပ်ကိုင်ခွင့်ရသူက Diving Resort & Recreation Centre များ လုပ်ကိုင်ခြင်း၊ စီမံခန့်ခွဲခြင်းစသည့်လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခြင်းတို့ကို သဘောတူခွင့်ပြုပါသည်။

၂ Diving Resort & Recreation Centre များ စတင်ဖွင့်လှစ်သည့်နေ့သည် ဤတည်ဆောက်၊ လုပ်ကိုင်၊လွှဲပြောင်းခြင်းဆိုင်ရာ (B.O.T) သဘောတူစာချုပ် (သို့မဟုတ်) မြေငှားရမ်းခြင်း ဆိုင်ရာသဘောတူ စာချုပ်များအပြီးသတ် လက်မှတ်ရေး ထိုးသည့်နေ့မှစ၍ စုစုပေါင်းကာလ (၃၆)လကို မကျော်လွန်စေရပါ။

၃ လုပ်ကိုင်ခွင့်ရသူသည် Diving Resort & Recreation Centre များတည်ဆောက်ရာတွင် အဆောက်အဦးပုံစံများ ပြောင်းလဲလိုခြင်း၊ ထပ်မံတိုးချဲ့ခြင်းစသည့် လုပ်ငန်းများလုပ်ကိုင်လိုပါက ထပ်မံဖြည့်ဆည်းသည့် အစိတ်အပိုင်းများ၊ ပစ္စည်းများကိုတွက်ချက်ဖော်ပြ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ခွင့်ပြုချက်ရယူရန် လုပ်ကိုင်ခွင့်ပြုသူနှင့် ညှိနှိုင်းဆောင်ရွက်ခွင့် ရှိစေရမည်ဖြစ်ပါသည်။

၄ လုပ်ကိုင်ခွင့်ပြုသူသည် ငွေကြေးသုံးစွဲမှုနှင့် စာရင်းဇယားများကို အတွင်းစာရင်းစစ်ထားရှိပြီး စာရင်းစစ်ဥပဒေများ၊ လုပ်ထုံးလုပ်နည်းများနှင့် အညီပြုစုထားရှိရပါမည်။

## ။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

-၁ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုရာတွင်-မီးဘေး၊ ရေဘေး၊ လေဘေး၊ မိုးကြိုး၊ မုန်တိုင်း၊ မြေပြိုခြင်း၊ မြေငလျင်၊ ရေလွှမ်းမိုးခြင်း၊ အစရှိသည့် သဘာဝ ဘေးအန္တရာယ် များကျရောက်ခြင်း၊ နိုင်ငံတော်အစိုးရ၏ ကန့်သတ် တားမြစ်ခြင်း၊ ရောဂါဘယများဖြစ်ပွားခြင်း အစရှိသည့် ကပ်ရောဂါများ ကျရောက်ခြင်း၊ ဆန္ဒပြမှု၊ ဆူပူနှောင့်ယှက်မှုများ ၊ စစ်ဖြစ်ပွားခြင်း၊ ဆိပ်ကမ်း သို့ ပုံမှန် ဝင်/ထွက် ခွင့်တားမြစ်ပိတ်ပင်ခံရခြင်း၊ တော်လှန် ပုန်ကန်ခြင်း၊ ရုန်းရင်း ဆန်ခတ်ဖြစ်ခြင်း၊ လုပ်ငန်းဆောင်ရွက်ရန် မရနိုင်လောက်သည့် ဒေသန္တရ ဆူပူအုံကြွမှုများ စသည်တို့ပါဝင်ပြီး စာချုပ်ဝင်နှစ်ဦး၏ ပယောဂကြောင့်မဟုတ်ဘဲ ဖြစ်ပွားသည့် အထက်ပါ အခြေအနေများနှင့် ဖြစ်ရပ်များကိုဆိုသည်။

-၂ အဆင့်မြင့်ဟိုတယ်တည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်း၊ လုပ်ငန်းနှင့်စပ်လျဉ်းသည့် စီမံရေးရာ ကိစ္စရပ်များဆောင်ရွက်ခြင်းများတွင် အဆိုပါမလွန်ဆန်နိုင်သော ဖြစ်ရပ်များ ဖြစ်ပွား ခြင်းကြောင့် လျော့ကျနှောင့်နှေး တားဆီးခံရခြင်းများ၊ ဆုံးရှုံးထိခိုက် နစ်နာမှုများဖြစ်ပေါ်သဖြင့် ဤသဘောတူစာချုပ်ပါ

စည်းကမ်းချက်များအား အကောင်အထည်ဖော်မှုများကို သက်ရောက်မှု ရှိခဲ့ပါက အဆိုပါ ဖြစ်ပွားခဲ့သည့် ကာလနှင့်သင့်လျော်သော ကာလတစ်ခုကို နှစ်ဦးနှစ်ဖက် အပြန်အလှန် ညှိနှိုင်း၍ သက်တမ်းတိုးမြှင့် သတ်မှတ်ခွင့်ရှိပါမည်။ ဆုံးရှုံးနစ်နာမှုများ ဖြစ်ပေါ်လျှင် လုပ်ကိုင်ခွင့်ရသူသည် လုပ်ကိုင်ခွင့်ပြုသူထံသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့် မရှိစေရ။

၁-၃ ဖော်ပြပါမလွန်ဆန်နိုင်သည့်ဖြစ်ရပ် ဖြစ်ပွားရသည်နှင့်စပ်လျဉ်း၍ မိမိတာဝန်ယူဆောင်ရွက်ရသည့် လုပ်ငန်းအပေါ် အကျိုးသက်ရောက်မှု တစ်စုံတစ်ရာဖြစ်ပေါ်လာပါက စာချုပ်ဝင်များအနေဖြင့် ဖြစ်ပွားသည့်နေ့မှ (၁၄)ရက်အတွင်း တစ်ဖက်စာချုပ်ဝင်ထံသို့စာဖြင့်ရေးသား အကြောင်းကြား ရမည်။ တစ်ဖက်စာချုပ်ဝင်က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်ဖြစ်မြောက်သည်။ နှစ်ဖက် စာချုပ်ဝင်များသည် မလွန်ဆန်နိုင်သော ဖြစ်ရပ်သက်ရောက်ခြင်းမှ သက်သာခွင့်ရရှိစေရန် အလို့ငှာ ကျိုးကြောင်းဆီလျော်စွာ ညှိနှိုင်းတိုင်ပင်ဆောင်ရွက်ရမည်။

## ၁။ အငြင်းပွားမှု ဖြေရှင်းခြင်း

၁-၁ လုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ကိုင်ခွင့်ရသူတို့ကြား ဤသဘောတူစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှု တစ်စုံတစ်ရာဖြစ်ပေါ်လာပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက် ချစ်ခင်ငြိမ်းချမ်းသော နည်းလမ်းဖြင့်ညှိနှိုင်း ဖြေရှင်းရမည်။

၁-၂ လုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ကိုင်ခွင့်ရသူတို့အကြား ဤသဘောတူစာချုပ်နှင့် စပ်လျဉ်း၍အငြင်း ပွားမှုတစ်စုံတစ်ရာဖြစ်ပေါ်လာပါက၊ စာချုပ်ဝင်နှစ်ဦးနှစ်ဖက် ငြိမ်းချမ်းသောနည်းလမ်းဖြင့် ညှိနှိုင်း ဖြေရှင်းရမည်။ အငြင်းပွားမှုအားငြိမ်းချမ်းစွာဖြေရှင်းမရပါက ဥပဒေနှင့်အညီ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ အဆုံးအဖြတ်ကိုခံယူရမည်။

၁-၃ ခုံရုံးတည်နေရာကို လုပ်ငန်းတည်နေရာဒေသဖြစ်သော တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့ဟု နှစ်ဦးသဘောတူသတ်မှတ်ပါသည်။

၁-၄ အငြင်းပွားမှုကိုဖြေရှင်းရာတွင် အသုံးပြုသည့် ဘာသာစကားမှာ မြန်မာဘာသာစကားဖြစ်သည်။

## ၂။ စာချုပ်အားပြင်ဆင်ခြင်း

၂-၁ ဤသဘောတူစာချုပ်ကိုပြင်ဆင်လိုပါက နှစ်ဦးနှစ်ဘက်ညှိနှိုင်း၍ စာဖြင့်ရေးသား ပြင်ဆင်နိုင်သည်။ ယင်းပြင်ဆင်ချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့တင်ပြ၍ ခွင့်ပြုချက်ရယူ ဆောင်ရွက်ရမည်။

## စာချုပ်ရပ်စဲခြင်း

-၁ ဤသဘောတူစာချုပ်အား အောက်ဖော်ပြပါ အကြောင်းတစ်ရပ်ကြောင့်ဖြစ်စေ၊ တစ်ခုထက် ပိုသော အကြောင်းများကြောင့် ဖြစ်ပေါ်လာပါက ရပ်စဲနိုင်သည်။

) စာချုပ်ဝင်များ နှစ်ဖက်အပြန်အလှန်သဘောတူညီချက်ဖြင့်ရပ်စဲခြင်း။

လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ စည်ကမ်းချက်များကို ဆက်လက်အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန်မစွမ်းဆောင်နိုင်တော့ခြင်း။

လုပ်ကိုင်ခွင့်ရသူသည် ဤသဘာတူစာချုပ်ပါ စည်ကမ်းချက်တစ်ရပ်အား ချိုးဖောက်ခြင်း။

) မလွန်ဆန်နိုင်သည့်ဖြစ်ရပ် ဖြစ်ပေါ်ခြင်းကာလသည် (တစ်ဆက်တည်း) ၆လ ထက်ကျော်လွန် ဖြစ်ပွားနေခြင်း။

ဤတည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်း၊ (B.O.T) စာချုပ်သည် လုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ကိုင်ခွင့်ရသူတို့၏ မြေငှားရမ်းခြင်းစာချုပ်၏ အစိတ်အပိုင်းတစ်ခုဖြစ်သည့် အားလျော်စွာ အဆိုပါ မြေငှားရမ်းခြင်း စာချုပ်မှာ ဆက်လက်အကောင်အထည်ဖော် ဆောင်ရွက်နိုင်ခြင်းမရှိတော့ပါက ဤစာချုပ်မှာလည်း ရပ်စဲသွားခြင်း။

လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့မှစ၍ လုပ်ငန်းများ စတင်ဆောင်ရွက်သွားရမည်ဖြစ်သော်လည်း တည်ဆောက်ရေးလုပ်ငန်းများကို လက်မှတ်ရေးထိုးသည့် နေ့မှစ၍ (၃၆၅)ရက်အတွင်း လုံးဝစတင်လုပ်ကိုင်မှုမရှိခြင်း။

-၂ ဤစာချုပ်ရပ်စဲပြီးစီးပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံကော်မရှင်သို့ အကြောင်းအရာ ပြည့်စုံစွာ ဖော်ပြလျက် အသိပေးတင်ပြရမည်။

## မြေနှင့်ဆောက်အဦးများပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

-၁ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ ငှားရမ်းကာလ ကုန်ဆုံးသွားလျှင်သော်လည်းကောင်း၊ သက်တမ်းတိုးမြှင့်သည့်ကာလ ကုန်ဆုံးလျှင်သော်လည်း ကောင်း၊ သို့တည်းမဟုတ် စာချုပ်ရပ်စဲသွားလျှင်သော်လည်းကောင်း ယင်းနေ့မှရက်ပေါင်း (၃၀) အတွင်း ငှားရမ်းသည့်မြေကို လုပ်ကိုင်ခွင့်ပြုသူထံသို့ (မလွန်ဆန်နိုင်သောအချက်များကြောင့် မြေအနေအထားပျက်စီးယိုယွင်းမှုများမှအပ) မူလမြေအနေအထား ပျက်စီးယိုယွင်းမှုမရှိစေရပဲ ကောင်းမွန် သည့်အနေအထားအတိုင်း အဖိုးစားနားမပါရှိပဲ ပြန်လည်အပ်နှံပါမည်။

-၂ လုပ်ကိုင်ခွင့်ရသူသည် ငှားရမ်းသည့်ကာလကုန်ဆုံးသည့်အခါ (သို့မဟုတ်) သက်တမ်းတိုးမြှင့် သည့်ကာလကုန်ဆုံးသည့်အခါ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်အခါ လုပ်ငန်းနှင့်ဆက်စပ်သည့်

အဆောက်အဦး အပါအဝင် မရွှေ့ပြောင်းနိုင်သောပစ္စည်း၊ ရွှေ့ပြောင်းနိုင်သောပစ္စည်းများ အားလုံးကို အဖိုးစားနားမပါရှိပဲ (သို့မဟုတ်) ချွင်းချက်မရှိဘဲ လုပ်ကိုင်ခွင့်ပြုသူထံသို့ ကောင်းမွန်သည့်အနေအထား အတိုင်း လွှဲပြောင်းပေးအပ်ရမည်။

**မြေနှင့်အဆောက်အဦးများသို့ ပြန်လည်ဝင်ရောက်ပိုင်ခွင့်**

-၁ လုပ်ကိုင်ခွင့်ရသူသည် စာချုပ်ပါစည်းကမ်းချက် တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်ပါက လုပ်ကိုင်ခွင့်ပြုသူက ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာ ဆောင်ရွက်ရန် အကြောင်းကြားစာ ပေးပို့ရမည်။

-၂ လုပ်ကိုင်ခွင့်ရသူသည် ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာဆောင်ရွက်ရန် လုပ်ကိုင်ခွင့်ပြုသူက အကြောင်းကြားစာပေးပို့သော်လည်း ယင်းအကြောင်းကြားစာပါ ကာလအတွင်း ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာဆောင်ရွက်ရန် ဆက်လက် ပျက်ကွက် နေပါက မြေနှင့်အဆောက်အဦး လုပ်ကိုင်ခြင်းကို ပိတ်ပင်ခြင်းခံရမည်ဖြစ်ပြီး၊ လုပ်ကိုင်ခွင့်ပြုသူ၏ ညွှန်ကြားချက်ပါအတိုင်း လိုက်နာမှုရှိမှသာ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုထားသည့် မြေနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦးများသို့ ပြန်လည်ဝင်ရောက်၍ ဆက်လက်ဆောင်ရွက်ခွင့် ရှိစေရမည်။ သို့ရာတွင် လက်ဝယ်ရယူခြင်းမှာ လုပ်ကိုင်ခွင့်ပြုသူက လုပ်ကိုင်ခွင့်ရသူထံမှ ငှားရမ်းခ (သို့မဟုတ်) ပစ္စည်း ဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

**သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းခြင်း**

-၁ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ ငှားရမ်းအသုံးပြုခွင့်ရသည့် မြေဧရိယာ နှစ်ခုလုံးကို မြန်မာနိုင်ငံ၏ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ကာကွယ် စောင့်ရှောက်ရမည်။

-၂ လုပ်ကိုင်ခွင့်ရသူသည် ငှားရမ်းအသုံးပြုခွင့်ရရှိသည့် မြေဧရိယာ ပတ်ဝန်းကျင်၏ ရေထု၊ လေထုများအား သတ်မှတ်ထားသည့် စံနှုန်းများထက်ကျော်လွန်၍ ညစ်ညမ်းမှုမရှိအောင် ထိန်းသိမ်းခြင်း၊ တောတောင် ရေမြေဂေဟစနစ်များ အထိခိုက်မပျက်စီးအောင် ကာကွယ်ထိန်းသိမ်း စောင့်ရှောက်ခြင်းတို့ကို ပြုလုပ် ရမည်။

-၃ လုပ်ကိုင်ခွင့်ရသူသည် ရေဆိုးစွန့်ပစ်ခြင်း၊ စွန့်ပစ်အမှိုက်များနှင့် အညစ်အကြေးများကို စနစ်တကျ သိမ်းဆည်းရန် စီမံဆောင်ရွက်ခြင်း၊ သန့်စင်စနစ်များဖြင့် ဆောင်ရွက်ခြင်းတို့ကို အမြဲမပြတ်ဆောင်ရွက် ကာ သဘာဝပတ်ဝန်းကျင်အား မထိခိုက်အောင် ထိန်းသိမ်းစောင့်ရှောက်ရမည်။

**သယံဇာတတွေ့ရှိခြင်း**

-၁ လုပ်ကိုင်ခွင့်ရသူသည် စာချုပ်သက်တမ်းအတွင်း အငှားချထားသည့် မြေပေါ်မြေအောက်မှ သယံဇာတပစ္စည်းများ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းသမိုင်းဝင်ပစ္စည်းများ၊ ခါတ်သတ္တုများ၊ ရေနံ၊ဓာတုဆိုင်ရာပစ္စည်းများအပါအဝင် အဖိုးတန်သော သဘာဝအရင်းအမြစ်များ တွေ့ရှိပါက လုပ်ငန်းဆောင်ရွက်မှုကို ခေတ္တရပ်ဆိုင်းပြီး လုပ်ကိုင်ခွင့်ပြုသူထံ သင့်ရာနည်းဖြင့်ချက်ချင်း အကြောင်းကြား အသိပေးရမည်။ ထိုပစ္စည်းများကို နိုင်ငံတော်ကပိုင်ဆိုင်ပြီး နိုင်ငံတော်ကခွင့်ပြုလျှင် သုံးစွဲခွင့်ပြုသူနှင့် သက်ဆိုင်ရာအဖွဲ့အစည်းက လွတ်လပ်စွာတူးဖော်ရယူခွင့်ရှိစေရမည်။

**ဒေသဖွံ့ဖြိုးရေးရန်ပုံငွေ**

-၁ ဤသဘောတူစာချုပ် အပိုဒ် ၁-၃ ပါ နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre တရားဝင်ဖွင့်လှစ်သည့်နေ့မှစ၍ နှစ်စဉ်ရရှိသည့် အသားတင်အမြတ်ဝင်ငွေများထဲမှ (၂) ရာခိုင်နှုန်း (သို့မဟုတ်) ကြိုတင်၍ညှိနှိုင်းထားရှိသော တစ်နှစ်လျှင် မြန်မာကျပ်ငွေ စုစုပေါင်း- ၂၀,၀၀၀,၀၀၀/- (ကျပ်ငွေသိန်းနှစ်ရာတိတိ)အနက် များရာကို လုပ်ကိုင်ခွင့်ရသူက လူမှုဝန်းကျင် ဆိုင်ရာတာဝန်ယူမှု Corporate Social Responsibility အဖြစ် လုပ်ကိုင်ခွင့်ပြုသူသို့ ပေးသွင်း ရပါမည်။ ယင်းဒေသဖွံ့ဖြိုးရေးရန်ပုံငွေကို (၂)နှစ်လျှင်တစ်ကြိမ် နှစ်ဘက်ညှိနှိုင်းလျက် အတိုးအလျော့ ပြုလုပ်ကြရန် ဖြစ်ပါသည်။

-၂ လုပ်ကိုင်ခွင့်ပြုသူသည် ပေးသွင်းလာသည့် ဒေသဖွံ့ဖြိုးရေးရန်ပုံငွေဖြင့် ယင်းဒေသတွင်း ဆောင်ရွက် သင့်သည့် ဖွံ့ဖြိုးရေးလုပ်ငန်းတစ်ရပ်ရပ်ကို ရွေးချယ်သတ်မှတ်ပြီး လုပ်ကိုင်ခွင့်ခံရသူအား တာဝန်ပေး၍ လုပ်ဆောင်စေနိုင်သည်။

**စာချုပ်စတင်အကျိုးသက်ရောက်ခြင်း**

-၁ ဤစာချုပ်သည် စာချုပ်ဝင်များနှင့် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့မှစတင်၍ အကျိုးသက် ရောက်ပါသည်။

**စာချုပ်သက်တမ်းနှင့် သက်တမ်းတိုးမြှင့်ခြင်း**

-၁ ဤတည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်း ဆိုင်ရာသဘောတူစာချုပ်နှင့် မြေငှားရမ်း ခြင်းဆိုင်ရာ သဘောတူစာချုပ်တို့သည် တစ်ခုနှင့်တစ်ခု အပြန်အလှန်အကျိုးသက်ရောက်မှုရှိသောကြောင့် သဘောတူစာချုပ် နှစ်ခုလုံး၏သက်တမ်းမှာ အပြီးသတ်လက်မှတ်ရေးထိုးသည့်နေ့ ( - - ) မှစ၍ စာချုပ်၏ အကျိုးသက်ရောက်သောရက်ကို စတင်သတ်မှတ်ပါသည်။

၂၀.၂ စာချုပ်များ၏ သက်တမ်းတိုးမြှင့်လိုပါက လုပ်ကိုင်ခွင့်ရသူသည် လုပ်ကိုင်ခွင့်ပြုသူထံ ယခုစာချုပ်၏ သက်တမ်းမကုန်ဆုံးမီ အနည်းဆုံး (၆)လ ကြိုတင်၍ သက်တမ်းတိုးမြှင့်ရန် စာဖြင့်ရေးသား လျှောက်ထားနိုင်သည်။

၂၀.၃ စာချုပ်သက်တမ်း တိုးမြှင့်ခြင်းကို တစ်ကြိမ်လျှင် (၁၀) နှစ်ဖြင့် (၂)ကြိမ်အထိ သက်တမ်းတိုးမြှင့်နိုင်သည်။ သက်တမ်းတိုးမြှင့်မှုကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရယူဆောင်ရွက်ရမည်။

၂၁။ ဒေသဖွံ့ဖြိုးရေးရန်ပုံငွေ

၂၁-၁ ဤသဘောတူစာချုပ် အပိုဒ် ၁-၃ ပါ နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre တရားဝင်ဖွင့်လှစ်သည့်နေ့မှစ၍ နှစ်စဉ်ရရှိသည့် အသားတင် အမြတ်ဝင်ငွေများထဲမှ (၂)ရာခိုင်နှုန်း (သို့မဟုတ်) ကြိုတင်၍ညှိနှိုင်းထားရှိသော တစ်နှစ်လျှင်မြန်မာကျပ်ငွေ စုစုပေါင်း-၂၀,၀၀၀,၀၀၀/- (ကျပ်ငွေသိန်းနှစ်ရာတိတိ)အနက် များရာကို လုပ်ကိုင်ခွင့်ရသူက လူမှုဝန်းကျင် ဆိုင်ရာ တာဝန်ယူမှု Corporate Social Responsibility အဖြစ် လုပ်ကိုင်ခွင့်ပြုသူသို့ ပေးသွင်းရပါမည်။ ယင်းဒေသဖွံ့ဖြိုးရေးရန်ပုံငွေကို (၂)နှစ်လျှင် တစ်ကြိမ် နှစ်ဘက် ညှိနှိုင်းလျက် အတိုး အလျော့ ပြုလုပ်ကြရန် ဖြစ်ပါသည်။

၂၂-၂ လုပ်ကိုင်ခွင့်ပြုသူသည် ပေးသွင်းလာသည့် ဒေသဖွံ့ဖြိုးရေးရန်ပုံငွေဖြင့် ယင်းဒေသတွင်း ဆောင်ရွက်သင့်သည့် ဖွံ့ဖြိုးရေး လုပ်ငန်းတစ်ရပ်ရပ်ကို ရွေးချယ်သတ်မှတ်ပြီး လုပ်ကိုင်ခွင့်ခံရသူအား တာဝန်ပေး၍ လုပ်ဆောင်စေနိုင်သည်။

၂၁။ အသိပေးခြင်း

၂၁.၁ စာချုပ်ဝင် နှစ်ဦးနှစ်ဘက်တို့သည် အောက်ပါဆက်သွယ်ရေးလမ်းကြောင်း အတိုင်းဆက်သွယ် အကြောင်းကြားရန်ဖြစ်ပါသည်။

(က) အကြောင်းကြားသည့် စနစ်များမှာစာဖြင့်လည်းကောင်း၊ တယ်လီဖုန်း၊ ဖက်(စ်)၊ အီးမေး(လ်)တို့ဖြင့်လည်းကောင်း၊ လူကိုင်တိုင်တွေ့ဆုံခြင်းဖြင့်လည်းကောင်း၊ အထူး ဆက်သားဖြင့်ဆက်သွယ်၍လည်းကောင်း အကြောင်းကြားဆက်သွယ်ရန် ဖြစ်ပါသည်။

(ခ) ဆက်သွယ်ရန်လိပ်စာ

<u>လုပ်ကိုင်ခွင့်ပြုသူ</u>

| | | |
|---|---|---|
| အမည် | - | ဦးတင်သိန်း |
| မှတ်ပုံတင်အမှတ် | - | ၇/တငန (နိုင်)၀၀၆၀၆၇ |
| လိပ်စာ | - | အတွင်းရေးမှူး<br>တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့<br>ထားဝယ်မြို့။ |

ဖုန်းနံပါတ် - (၉၅)-၅၉-၂၃၅၅၆၊ ၀၉-၈၇၆၀၁၅၅
ဖက်(စ်) - (၉၅)-၅၉-၂၃၆၀၀

<u>လုပ်ကိုင်ခွင့်ရသူ</u>

အမည် - ဦးဝင်းအောင်
မှတ်ပုံတင်အမှတ် - ၁၂၊ပဇတ(နိုင်)၀၂၈၇၃၂
လိပ်စာ - အမှတ် ၁၀၊ အင်းလျားရိပ်သာလမ်း
မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။
ဖုန်းနံပါတ် - (၉၅)-၁-၆၅၇၀၅၀၊ ၀၉-၅၁၄၇၂၀၁
အီးမေး(လ်) - winaung66@gmail.com

၂။ အထွေထွေ

၂.၁ ဤစာချုပ်နှင့်ပူးတွဲထားသည့်နောက်ဆက်တွဲများသည် ဤစာချုပ်၏တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။

၂.၂ အထက်ပါစည်းကမ်းချက်များ၊ အချက်အလက်များကို စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် သဘောတူညီကြပြီး ဖြစ်သည့်အလျောက် ၂၀၁၅ခုနှစ်၊ လ၊ ရက်နေ့တွင် အောက်ပါ အသိသက် သေများ၏ ရှေ့မှောက်၌ သဘောတူစာချုပ်၊ ချုပ်ဆို၍ လက်မှတ်ရေးထိုးကြပါသည်။

| လုပ်ကိုင်ခွင့်ပြုသူ | လုပ်ကိုင်ခွင့်ရသူ |
|---|---|
| ဦးတင်သိန်း | ဦးဝင်းအောင် |
| အတွင်းရေးမှူး | မန်နေဂျင်းဒါရိုက်တာ |
| တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ | Amata International Co.Ltd. |
| ထားဝယ်မြို့။ | ရန်ကုန်တိုင်းဒေသကြီး |
| ရက်စွဲ။ ။ | ရက်စွဲ။ ။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

နှင့်

# Amata International Co.,Ltd

တို့အကြား

ချုပ်ဆိုသော

ဖိုးနီကျွန်း (ခ) မိုလ်ရာညွှန့်ကျွန်း

Diving Resort & Recreation Centre

## မြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)

ရက်စွဲ။ ၂၀၁၉ ခုနှစ်၊ လ ( ) ရက်။

**တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့**

**နှင့်**

**Amata International Co.,Ltd.**

**တို့အကြားချုပ်ဆိုသော**

**မြေငှားရမ်းခြင်းဆိုင်ရာ**

**သဘောတူစာချုပ် (မူကြမ်း)**

ဤမြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်ကို ၂၀၁၅ ခုနှစ်၊ လ၊ ( )ရက်နေ့၌ မြို့တွင် ဦးတင်သိန်း၊ (မှတ်ပုံတင်အမှတ်-၇/တငန(နိုင်)၀၀၆၀၆၇၊ အတွင်းရေးမှူး၊ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ ကိုယ်စားပြုသော၊တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ ၊ ထားဝယ်မြို့ (နောင်တွင် **''အငှားချထားသူ''** ဟုခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်၌ ၄င်းအားဆက်ခံသူများ ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည် ) ကတဖက်

နှင့်

ဦးဝင်းအောင်၊ နိုင်ငံသားစိစစ်ရေးအမှတ်(၁၂/ပဇတ(နိုင်)၀၂၈၇၃၂) ၊ မန်နေဂျင်းဒါရိုက်တာ Amata International Co.,Ltd. ကိုယ်စားပြုသော၊ အမှတ်(၁၀) အင်းလျားရိပ်သာလမ်း၊မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် တည်ရှိသော Amata International Co.,Ltd. (နောင်တွင် **''အငှားချထားခြင်းခံရသူ''** ဟုခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ၄င်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်) က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များအား သဘောတူညီသဖြင့် ဤမြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်ကို ချုပ်ဆိုကြပါသည်။

**ရည်ရွယ်ချက်**

တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ မြိတ်ကျွန်းစုအတွင်းရှိ မြေရီယာအကျယ်အဝန်းဧက (၁၀၀) ရှိသော ဖိုးနီကျွန်း(ခ)ပိုလ်ရာညွှန့်ကျွန်းအား ငှားရမ်း၍ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစားပေးအဆင့်မြင့် Diving Resort & Recreation Centre ဆောက်လုပ် အကောင် အထည်ဖော်ဆောင်ရွက်ရန် ဤမြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်ကို ချုပ်ဆိုခြင်းဖြစ်ပါသည်။

# ၁။ အဓိပ္ပါယ်ဖွင့်ဆိုချက်များ

## ၁-၁ သဘောတူစာချုပ်

သဘောတူစာချုပ်ဆိုသည်မှာ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊မြိတ်ကျွန်းစု အတွင်းရှိ ဖိုးနီကျွန်း(ခေါ်) ဗိုလ်ရာညွှန့်ကျွန်း မြေပုံညွှန်းအမှတ် UTM -1098/03-MM(A-147569, B- 155568, C-156566, D-149560, E-147560) မြေဧရိယာ (၁၀၀) ၊ ကေအား ငှားရမ်း၍ Amata Intenational Co.,Ltd. မှ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစားပေး၊ နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre ဆောက်လုပ် အကောင်အထည်ဖော် ဆောင်ရွက်သွားမည့် မြေငှားရမ်းခြင်းဆိုင်ရာ ဤသဘောတူစာချုပ်ကို ဆိုသည်။

(မြေပုံများကို ဤစာချုပ်၏အစိတ်အပိုင်းတစ်ရပ်အဖြစ် နောက်ဆက်တွဲ (၁) ဖြင့် ဤစာချုပ်တွင် ပူးတွဲထားပါသည်။ )

## ၁-၂ ဘဏ္ဍာရေးနှစ်

ဘဏ္ဍာရေးနှစ်ဆိုသည်မှာ နှစ်တစ်နှစ်၏ ဧပြီလ(၁)ရက်နေ့မှ နောက်တစ်နှစ်မတ်လ (၃၁)ရက်နေ့အထိ (၁၂)လတာ ကာလကိုဆိုသည်။

## ၁-၃ နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre တရားဝင်ဖွင့်လှစ်သည့်နေ့

နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre တရားဝင်ဖွင့်လှစ်သည့်နေ့ နေ့ဆိုသည်မှာ ဟိုတယ်အဆောက်အဦးများဆောက်လုပ်ပြီးစီး၍ လုပ်ငန်းများစတင်လည်ပတ်ပြီး၊ ဝန်ဆောင်မှုလုပ်ငန်းများ စတင်လက်ခံဆောင်ရွက်သည့်နေ့ကိုဆိုသည်။

## ၁-၄ အသုံးပြုနိုင်သောမြေ

အသုံးပြုနိုင်သောမြေဆိုသည်မှာ နိုင်ငံတကာအဆင့်မြင့် ဟိုတယ်လုပ်ငန်းနှင့် ဆက်စပ်လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရန် သတ်မှတ်ထားသော မြေနေရာကိုဆိုသည်။

## ၁-၅ အရန်ထားရှိသည့်မြေ

အရန်ထားရှိသည့်မြေဆိုသည်မှာ လက်ရှိအခြေအနေတွင် မည်သည့်လုပ်ငန်းကိုမျှ လုပ်ကိုင် ဆောင်ရွက်ခြင်း မပြုပဲ နောင်တစ်ချိန်တွင် အသုံးပြုလိုပါက အသုံးပြုနိုင်သောမြေအဖြစ်သို့ ပြောင်းလဲ၍ ခွင့်ပြုချက် ရယူဆောင်ရွက်ရန် သတ်မှတ်ထားသောမြေကိုဆိုသည်။

## ၁-၆ အကာအကွယ်ပေးထားသည့်မြေ

အကာအကွယ်ပေးထားသည့်မြေဆိုသည်မှာ အရန်ထားရှိသည့်မြေ၊ အသုံးပြုနိုင်သောမြေအဖြစ်သို့ မည်သည့်အခါမှ မရောက်စေဘဲ၊ ငှားရမ်းသည့်ကာလတစ်လျှောက်လုံးတွင် သဘာဝပတ်ဝန်းကျင် ဂေဟစနစ်ကို မူလအတိုင်း ထိန်းသိမ်းထားရှိရမည့်မြေကိုဆိုသည်။

၁-၇ **ထပ်မံဖြည့်ဆည်းမည့် အစိတ်အပိုင်းများ**

ထပ်မံဖြည့်ဆည်းမည့်အစိတ်အပိုင်းများ ဆိုသည်မှာ ငှားရမ်းမြေပေါ်တွင် နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre ဆောင်ရွက်ရာတွင် ပါဝင်မည့် ကနဦးဆောင်ရွက်သည့် အစိတ်အပိုင်းများ ဆက်လက် ဆောင်ရွက်သွားမည့်လုပ်ငန်းများ ထပ်မံဖြည့်စွက်သည့်လုပ်ငန်းများ တည်ဆောက်ရေး လုပ်ငန်းများကို ဆိုသည်။

၂။ **အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း**

၂-၁ အငှားချထားသူသည် ဤစာချုပ်တွင်ဖော်ပြထားသော တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ မြိတ်ကျွန်းစုအတွင်းရှိ ဖိုးနီကျွန်း(ခ)ဗိုလ်ရာညွှန့်ကျွန်း ဟုခေါ်တွင်သည့်၊ မြေဧရိယာ (၁၀၀) ကေ၏ မြေယာ စီမံခန့်ခွဲမှုကိစ္စရပ်များကို တရားဝင်စီမံခန့်ခွဲပိုင်ခွင့်ရှိသော အာဏာပိုင်အဖွဲ့အစည်းဖြစ်ပါသည်။

၂-၂ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါအရပ်ဒေသရှိ ဖော်ပြပါကျွန်းပေါ်ရှိ မြေဧရိယာအားလုံးကို နှစ်ရှည်ငှားရမ်းရန်နှင့်နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre များ လုပ်ကိုင် ဆောင်ရွက်ရန် ငွေကြေးအင်အား၊ ပစ္စည်းအင်အားနှင့် အတတ်ပညာအင်အားများရှိပြီး စာချုပ်ပါအတိုင်း ဆောင်ရွက်နိုင်စွမ်း ရှိသူဖြစ်ပါသည်။

၃။ **မြေငှားရမ်းခြင်းကာလသတ်မှတ်ခြင်းနှင့် ဖွံ့ဖြိုးမှုဆောင်ရွက်ခြင်း။**

၃-၁ အငှားချထားသူသည် ဤသဘောတူစာချုပ်၊ အပိုဒ် (၁-၁)ပါကော့သောင်းခရိုင်၊ မြိတ်ကျွန်းစု အတွင်းရှိ မြေဧရိယာ အကျယ်အဝန်းကေ (၁၀၀)ကေ၊ ရှိသော ဖိုးနီကျွန်း(ခ)ဗိုလ်ရာညွှန့်ကျွန်းကို အငှားချထားခြင်းခံရသူ ထံသို့ နှစ်ရှည်ငှားရမ်း၍၊ ၎င်းမြေပေါ်တွင် နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre များ လုပ်ကိုင်ဆောင်ရွက်ရန်သဘောတူညီပါသည်။

၃-၂ အငှားချထားသူသည် အငှားချထားခြင်းခံရသူထံသို့ ဤသဘောတူစာချုပ်၊ အပိုဒ်(၁-၁) ပါ ကော့သောင်း ခရိုင်၊ မြိတ်ကျွန်းစုအတွင်းရှိ မြေဧရိယာအကျယ်ဝန်း ကေ (၁၀၀) ရှိသော ဖိုးနီကျွန်း(ခ)ဗိုလ်ရာညွှန့်ကျွန်းကို၊ ဤသဘောတူစာချုပ်လက်မှတ်၊ ရေးထိုးသည့်နေ့မှစ၍ နှစ်ပေါင်း(၅၀) ငှားရမ်း အသုံးပြုရန် ခွင့်ပြုပါသည်။ သက်တမ်းပြည့်သည့်အခါ အငှားချထားခြင်းခံရသူသည် ဆက်လက် ငှားရမ်းခြင်း လုပ်ကိုင်ဆောင်ရွက်လိုပါက နောက်ထပ်တစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့် (၂)ကြိမ်ဆက်လက် ငှားရမ်း သုံးစွဲခွင့်ပြုရန် တင်ပြဆောင်ရွက်ခွင့် ရှိပါသည်။

၃-၃ အငှားချထားခြင်းခံရသူသည် သက်တမ်းပြည့်သည့်အခါ ဆက်လက်၍ငှားရမ်းလုပ်ကိုင်ဆောင်ရွက်လိုပါက သက်တမ်းမစေ့မီ အနည်းဆုံး(၆)လကြိုတင်၍ လျှောက်ထားရပါမည်။

၃-၄ အငှားချထားခြင်းခံရသူသည် ငှားရမ်းရရှိသည့်မြေပေါ်တွင် ၊ နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre ဆက်စပ်ပါဝင်လာမည့် အဆောက်အဦးများကို နောက်ဆက်တွဲ(၂) တည်ဆောက်ရေးကာလအတွင်းပြီးမြောက်အောင် ဆောင်ရွက်သွားပါမည်။ ဖော်ပြပါလုပ်ငန်းများ ဆောင်ရွက်မည့်စီမံချက်အသေးစိတ်ကို ဤသဘောတူစာချုပ်၏ နောက်ဆက်တွဲ (၃)ဖြင့်လည်းကောင်း ဖော်ပြထားပါသည်။

၃-၅ အငှားချထားခြင်းခံရသူသည် ဤစာချုပ်တွင်ပါရှိသည့်အတိုင်း ရပ်ရွာဒေသဖွံ့ဖြိုးရေးအတွက်လည်း အငှားချထားသူက လမ်းညွှန်ညှိနှိုင်းလာသည့်အတိုင်း လူမှုဝန်းကျင်ဆိုင်ရာတာဝန်ယူမှု Corporate Social Responsibility ကို(B.O.T) စာချုပ်အပိုဒ် (၁၈)ပါသတ်မှတ်ချက်များအတိုင်း မိမိတို့ဘက်မှ သဘောတူလက်ခံဆောင်ရွက်သွားပါမည်။

## ၄။ မြေအသုံးချမှု အာမခံကြေးပေးသွင်းခြင်း၊ မြေငှားရမ်းခပေးသွင်းခြင်း

၄-၁ အငှားချထားခြင်းခံရသူသည် **မြေအသုံးချအမှုအာမခံကြေးငွေအဖြစ်** တစ်ကေလျှင် မြန်မာကျပ်ငွေ (၁၀,၀၀၀/--ကျပ်တစ်သောင်း)နှုန်းဖြင့် မြေဧရိယာကေ(၁၀၀) ရှိသော ဖိုးနီကျွန်း(ခ)မိုလ်ရာညွှန့်ကျွန်းအတွက် မြန်မာကျပ်ငွေ (၁,၀၀၀,၀၀၀/-) (ကျပ်ဆယ်သိန်းတိတိ )ကို ဤစာချုပ်ရေးထိုးသည့်နေ့တွင် အငှားချထားသူ၏ငွေစာရင်းခေါင်းစဉ်အမှတ် (                    )သို့ သတ်မှတ်ထားသော နည်းလမ်းအတိုင်း ပေးသွင်းပါမည်။

၄-၂ အငှားချထားခြင်းခံရသူသည် မြေဧရိယာကေ(၁၀၀) ကေရှိသော ဖိုးနီကျွန်း(ခ)မိုလ်ရာညွှန့်ကျွန်းအတွက် နှစ်စဉ်မြေငှားရမ်းခကို အောက်ပါအတိုင်းပေးသွင်းပါမည်။

(က) အသုံးပြုနိုင်သောမြေ

၂၅ ကေ/မြန်မာကျပ်ငွေ - ၂၀,၀၀၀နှုန်း - ၅၀၀,၀၀၀ ကျပ်

(ခ) အရန်ထားရှိသည့်မြေ

၂၅ ကေ/မြန်မာကျပ်ငွေ - ၅,၀၀၀နှုန်း - ၁၂၅,၀၀၀ ကျပ်

(ခ) အကာအကွယ်ပေးမည့်မြေ

၅၀ ကေ/မြန်မာကျပ်ငွေ - ၂,၀၀၀နှုန်း - ၁၀၀,၀၀၀ ကျပ်

**စုစုပေါင်းမြန်မာကျပ်ငွေ- ၇၂၅,၀၀၀ ကျပ်**

**(ကျပ်ခုနစ်သိန်းနှစ်သောင်းငါးထောင်တိတိ)**

၄-၃ အငှားချထားခြင်းခံရသူသည် မြေအသုံးပြုခြင်းအတွက် နှစ်စဉ်မြေငှားရမ်းခ မြန်မာကျပ်ငွေ ၇၂၅,၀၀၀/- (ကျပ်ခုနစ်သိန်းနှစ်သောင်းငါးထောင်တိတိ) ကိုပေးသွင်းရပါမည်။

၄-၄ အငှားချထားခြင်းခံရသူသည် နှစ်စဉ်မြေငှားရမ်းခကို တစ်နှစ်လျှင်တစ်ကြိမ် တစ်လုံးတစ်ခဲတည်း ( Lump Sum) ပေးချေပါမည်။ ပထမဆုံးအကြိမ် ငှားရမ်းခပေးချေမှုကို ဤသဘောတူစာချုပ်တွင်ပါရှိသည့် နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre များ တရားဝင်စတင်ဖွင့်လှစ်သည့်နေ့မှစ၍ ပေးချေရန်ဖြစ်ပါသည်။

၄-၅ အကယ်၍ ဟိုတယ်ဖွင့်လှစ်သည့်နေ့ ဝန်ဆောင်မှုများစတင်သည့် နေ့သည်သတ်မှတ်ရက်ထက် ကျော်လွန်ပါက၊ နှစ်စဉ်ငှားရမ်းခကို အဆိုပါ တည်ဆောက်ရေးကာလပြီးဆုံးရန် သတ်မှတ်သည့်နေ့မှ စတင်၍ ပေးချေရပါမည်။ ပထမအကြိမ်စတင်ပေးချေရမည့်ငွေမှာ မြန်မာကျပ်ငွေ(၇၂၅,၀၀၀/) (ကျပ်ခုနစ်သိန်းနှစ်သောင်းငါးထောင်တိတိ) ဖြစ်ပါသည်။

၄-၆ အထက်အပိုဒ် ၄-၂၊ ၄-၃နှင့် ၄-၄ တို့တွင်ဖော်ပြထားသည့် နှစ်စဉ်မြေငှားရမ်းခကို ဤစာချုပ်ပါနိုင်ငံတကာအဆင့်မီ Diving Resort & Recreation Center များ **တရားဝင် စတင်ဖွင့်လှစ်သည့်နေ့**မှစ၍ တစ်လုံးတစ်ခဲတည်း ( Lump Sum ) ပေးချေရန်ဖြစ်ပါသည်။ ပေးချေရာ၌ အငှားချထားသူက ညွှန်ကြားသည့် သတ်မှတ်ထားသော ငွေစာရင်းခေါင်းစဉ်သို့ မပျက်မကွက်ပေးသွင်းရပါမည်။

၄-၇ မြေငှားရမ်းခပေးသွင်းရာတွင် ငွေပေးသွင်းမှု နောက်ကျပါက အငှားချထားခြင်းခံရသူသည် နောက်ကျကြေး အဖြစ် တစ်ရက်လျှင် မြန်မာကျပ်ငွေ (၅၀,၀၀၀/-) (ကျပ်ငါးသောင်းတိတိ) နှုန်းဖြင့် တွက်ချက်၍ ထပ်မံပေးသွင်းရပါမည်။

## ၅။ တည်ဆောက်ရေးကာလသတ်မှတ်ခြင်း

၅-၁ တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ရန်အတွက် ကနဦး ပတ်ဝန်းကျင်လေ့လာခြင်းနှင့် မြေတိုင်းတာခြင်း ကာလကို ဤသဘောတူစာချုပ်(သို့မဟုတ်) မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်အပြီးသတ် လက်မှတ်ရေးထိုးသည့် နေ့မှစ၍ (၆)လ တာကာလ သတ်မှတ်ပါသည်။

၅-၂ တည်ဆောက်ရေးကာလကို အထက်ဖော်ပြပါ ကနဦးလေ့လာရေး (၆)လအပါအဝင် စုစုပေါင်း (၃၆)လ သတ်မှတ်၍ အပြီးအပြတ်ဆောင်ရွက်ရပါမည်။

၅-၃ တည်ဆောက်ရေးလုပ်ငန်းများသည် မလွန်ဆန်နိုင်သော အကြောင်းအရင်း တစ်စုံတရာကြောင့် သတ်မှတ်ရက်အတွင်း မပြီးစီးနိုင်ပါက အငှားချထားသူထံသို့ အကြောင်းအရင်း ခိုင်လုံစွာဖြင့် အချိန်ကာလ ညှိနှိုင်းတိုးမြှင့်ပေးရန် ကြိုတင်အသနားခံစာဖြင့် ရေးသား၍ လျှောက်ထားနိုင်သည်။ သို့သော် အကြောင်းအရင်းခိုင်လုံမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက အပိုဒ် (၄-၅) နှင့် (၅-၂) တွင်ဖော်ပြထားသည့် သတ်မှတ်ရက်မှ

စတင်၍ နှစ်စဉ်မြေငှားရမ်းခကို ချွင်းချက်မရှိ စတင်ပေးသွင်းရန်ဖြစ်သည်။

## ၆။ အငှားချထားသူ၏ တာဝန်များ

၆-၁ အငှားချထားသူသည် ဤသဘောတူ စာချုပ်တွင်ပါရှိသော စည်းကမ်းချက်များနှင့်အညီ စတင်အကျိုးသက်ရောက်သည့်နေ့မှစ၍ အငှားချထားခြင်းခံရသူအနေဖြင့် လုပ်ငန်းများလုပ်ကိုင်ရာတွင် အနှောင့်အယှက်မရှိ အေးချမ်းစွာ လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိစေရမည်ဖြစ်ပါသည်။

၆-၂ အငှားချထားသူက လုပ်ငန်းအတွက် လိုအပ်သော သွင်းကုန်ပစ္စည်းများ စက်ပစ္စည်းများ၊ အပိုပစ္စည်းများ၊ အရံပစ္စည်းများနှင့် နည်းပညာအထောက်အကူပြု ပစ္စည်းများ တင်သွင်းရာတွင် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုသည့် အခွန်ကင်းလွတ်ခွင့်၊ အခွန်သက်သာခွင့်တို့ကို ခံစားနိုင်ရန် ကူညီဆောင်ရွက်ပေးရပါမည်။

၆-၃ အငှားချထားသူသည် အငှားချထားခြင်းခံရသူက ပေးရန်ရှိသည့် နှစ်စဉ်မြေငှားရမ်းခများကို သတ်မှတ်ကာလအတွင်း မှန်ကန်စွာ ပေးသွင်းနိုင်ရန် ကြီးကြပ်ပေးရမည်။

၆-၄ အငှားချထားသူသည် မိမိကိုယ်တိုင်သော်လည်းကောင်း၊ မိမိကတရားဝင်တာဝန်ပေးအပ်သည့် လူပုဂ္ဂိုလ်၊ အဖွဲ့အစည်းများကိုသော်လည်းကောင်း၊ အငှားချထားခြင်းခံရသူ၏ လုပ်ငန်းဆောင်ရွက်မှုများကို ကြိုတင်အသိပေး အကြောင်းကြား၍ ကြည့်ရှုစစ်ဆေးနိုင်သည်။

## ၇။ အငှားချထားခြင်းခံရသူ၏ တာဝန်များ

၇-၁ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်တွင်ပါရှိသော စည်းကမ်းချက်များနှင့်အညီ သတ်မှတ်ထားသော လုပ်ငန်းများကို အချိန်မီပြီးစီးအောင် ဆောင်ရွက်ရမည်။

၇-၂ အငှားချထားခြင်းခံရသူသည် သတ်မှတ်ထားသော မြေငှားရမ်းခနှင့် အခြားအခွန်၊အခများကို အချိန်မီမပျက်မကွက် ပေးသွင်းရမည်။ ထို့အတူ စာချုပ်တွင် ထမ်းဆောင်ရမည့် တံဆိပ်ခေါင်းများ၊ စာချုပ်မှတ်ပုံတင်ကိစ္စများကို တစ်ပါတည်းဆောင်ရွက်ရမည်။

၇-၃ အငှားချထားခြင်းခံရသူသည်ဤသဘောတူစာချုပ်ပါ လုပ်ငန်းမှအပ အခြားသော လုပ်ငန်း တစ်စုံတစ်ရာကို ငှားရမ်းသည့် မြေပေါ်တွင် လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုရ။

၇-၄ အငှားချထားခြင်းခံရသူသည် ငှားရမ်းသည့်ကာလအတွင်း အဆောက်အဦးများ တိုးချဲ့ခြင်း၊ အရန်ထားရှိသည့်မြေနေရာကို အသုံးပြုလိုခြင်း စသည့်ပြောင်းလဲဆောင်ရွက်ရန် ကိစ္စများဖြစ်ပေါ်လာပါက

အငှားချထားသူ ထံသို့ စီမံချက်ရေးဆွဲ၍ အနည်းဆုံးရက်ပေါင်း (၃၀)ကြိုတင်အသိပေး၍ ခွင့်ပြုချက်ရယူရမည်။

၇-၅ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းများကို ဆောင်ရွက်ရာတွင် တဆင့်ငှားရမ်းခြင်း၊ အခြားသောပုဂ္ဂိုလ်/အဖွဲ့အစည်းတစ်ခုခုသို့ လွှဲပြောင်းလုပ်ကိုင်စေခြင်းမပြုရ။

၇-၆ အငှားချထားခြင်းခံရသူသည် ရင်းနှီးမြှုပ်နှံမှုတိုးချဲ့ခြင်း၊ အရင်းအနှီးငွေများရယူခြင်း၊ ချေးငွေများရယူခြင်းကိစ္စများကို အငှားချထားသူထံ တရားဝင်စာဖြင့် ကြိုတင်အသိပေး၍ ခွင့်ပြုချက်ရယူ ဆောင်ရွက်သွားရမည်။

၇-၇ အငှားချထားခြင်းခံရသူသည် မြေကိုငှားရမ်းသုံးစွဲနေစဉ် ကာလအတွင်း ယင်းမြေမှ အဖိုးတန် ရတနာပစ္စည်းများ၊ ရေနံ၊ သတ္တုစသည့်အဖိုးတန် သယံဇာတပစ္စည်းများ ရရှိပါက မိမိလုပ်ငန်းများကို ဆက်လက်လုပ်ကိုင်ခြင်းမပြုပဲ ခေတ္တရပ်နားထားပြီး အငှားချထားသူထံသို့ ချက်ချင်း အသိပေးအကြောင်းကြားရမည်။

၇-၈ အငှားချထားခြင်းခံရသူသည် ဤစာချုပ်တွင်ပါရှိသည့်အတိုင်း ရပ်ရွာဒေသဖွံ့ဖြိုးရေးအတွက် အငှားချထားသူက လမ်းညွှန်ညှိနှိုင်းလာသည့်အတိုင်း လူမှုဝန်းကျင်ဆိုင်ရာ တာဝန်ယူမှု Corporate Social Responsibility ကို(B.O.T) စာချုပ်အပိုဒ် (၁၈)ပါ သတ်မှတ်ချက်များအတိုင်း မိမိဘက်မှ သဘောတူလက်ခံ ဆောင်ရွက်ရမည်။

၇-၉ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ် လက်မှတ်ရေးထိုးပြီးစီးသည့်နေ့မှစ၍ ရက်ပေါင်း(၃၆၅)ရက် အတွင်း လုပ်ငန်းများစတင်ဆောင်ရွက်ရပါမည်။

**၈။ လုပ်ငန်းလည်ပတ်ခြင်းနှင့် စီမံခန့်ခွဲခြင်း**

၈-၁ အငှားချထားသူသည် အငှားချထားခြင်းခံရသူက နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre များ လုပ်ကိုင်ခြင်း၊ စီမံခန့်ခွဲခြင်း စသည့်လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခြင်း တို့ကို သဘောတူခွင့်ပြုပါသည်။

၈-၂ နိုင်ငံတကာအဆင့်မီ Diving Resort & Recreation Centre များ စတင် ဖွင့်လှစ်သည့်နေ့သည် ဤမြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ် (သို့မဟုတ်) တည်ဆောက်၊လုပ်ကိုင်၊ လွှဲပြောင်း ခြင်းဆိုင်ရာ (B.O.T ) သဘောတူစာချုပ်များ အပြီးသတ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ စုစုပေါင်းကာလ (၃၆)လကို မကျော်လွန်စေရပါ။

၈-၃ အငှားချထားခြင်းခံရသူသည် မူလသတ်မှတ်ထားသည့် မြေငှားသက်တမ်း ကုန်ဆုံးသည့်အခါ ဆက်လက်

ငှားရမ်းလုပ်ကိုင်လိုပါက တစ်ကြိမ်လျှင် (၁၀)နှစ်ကာလဖြင့် သက်တမ်း(၂)ကြိမ် ထက်မပိုတိုးမြှင့် လျှောက်ထားခွင့်ရှိပါသည်။

## ၉။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၉-၁ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုရာတွင် -မီးဘေး၊ ရေဘေး၊လေဘေး၊ မိုးကြိုး၊ မုန်တိုင်း၊ မြေပြိုခြင်း၊ မြေငလျင်၊ ရေလွှမ်းမိုးခြင်း၊ အစရှိသည့် သဘာဝဘေးအန္တရာယ်များကျရောက်ခြင်း၊ နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ခြင်း၊ ရောဂါဘယများဖြစ်ပွားခြင်း၊ အစရှိသည့် ကပ်ရောဂါများကျရောက်ခြင်း၊ ဆန္ဒပြမှု၊ ဆူပူနှောင့်ယှက်မှုများ၊ စစ်ပွဲဖြစ်ပွားခြင်း၊ ဆိပ်ကမ်းသို့ ပုံမှန်ဝင်/ထွက်ခွင့် တားမြစ်ပိတ်ပင်ခံရခြင်း၊ တော်လှန်ပုန်ကန်ခြင်း၊ ရှန်းရင်းဆန့်ခတ်ဖြစ်ခြင်း၊ လုပ်ငန်းဆောင်ရွက်၍ မရနိုင်လောက်သည့် ဒေသန္တရ ဆူပူအုံကြွမှုများ စသည်တို့ပါဝင်ပြီး စာချုပ်ဝင်နှစ်ဦး၏ ပယောဂကြောင့် မဟုတ်ပဲဖြစ်ပွားသည့် အထက်ပါ အခြေအနေများ နှင့် ဖြစ်ရပ်များကိုဆိုလိုသည်။

၉-၂ အဆင့်မြင့်ဟိုတယ်တည်ဆောက်ခြင်း၊ လုပ်ငန်းလုပ်ဆောင်ခြင်း၊လုပ်ငန်းနှင့် စပ်လျဉ်းသည့် စီမံရေးရာ ကိစ္စရပ်များ ဆောင်ရွက်ခြင်းများတွင် အဆိုပါ မလွန်ဆန်နိုင်သောဖြစ်ရပ်များ ဖြစ်ပွားခြင်းကြောင့် လျော့ကျ နှောင့်နှေးတားဆီးခံရခြင်းများ၊ ဆုံးရှုံးထိခိုက်နစ်နာမှုများဖြစ်ပေါ်သဖြင့် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက် များအား အကောင်အထည်ဖော်မှုများကို သက်ရောက်မှုရှိခဲ့ပါက အဆိုပါ ဖြစ်ပွားခဲ့သည့် ကာလနှင့် သင့်လျော်သော ကာလတစ်ခုကို နှစ်ဦးနှစ်ဖက် အပြန်အလှန်ညှိနှိုင်း၍ သက်တမ်းတိုးမြှင့် သတ်မှတ် ခွင့်ရှိပါမည်။ ဆုံးရှုံးနစ်နာမှု များဖြစ်ပေါ်လျှင် အငှားချထားခြင်းခံရသူသည် အငှားချထားသူထံသို့ နစ်နာဆုံးရှုံးမှု အတွက် လျော်ကြေးတောင်းခံခွင့်မရှိစေရ။

၉-၃ ဖော်ပြပါမလွန်ဆန်နိုင်သည့်ဖြစ်ရပ်ဖြစ်ပွားရသည်နှင့် စပ်လျဉ်း၍ မိမိတာဝန်ယူဆောင်ရွက်ရသည့် လုပ်ငန်းအပေါ် အကျိုးသက်ရောက်မှု တစ်စုံတစ်ရာ ဖြစ်ပေါ်လာပါက စာချုပ်ဝင်များအနေဖြင့် ဖြစ်ပွားသည့် နေ့မှ (၁၄)ရက် အတွင်းတစ်ဖက်စာချုပ်ဝင်ထံသို့ စာဖြင့်ရေးသားအကြောင်းကြားရမည်။ တစ်ဖက်စာချုပ်ဝင်က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်ဖြစ်မြောက်သည်။ နှစ်ဖက်စာချုပ်ဝင်များသည် မလွန်ဆန်နိုင်သော ဖြစ်ရပ်သက်ရောက်ခြင်းမှ သက်သာခွင့်ရရှိစေရန်အလို့ငှာ ကျိုးကြောင်းဆီလျော်စွာ ညှိနှိုင်းတိုင်ပင်ဆောင်ရွက်ရမည်။

၁၀။ အငြင်းပွားမှု ဖြေရှင်းခြင်း

၁၀-၁ အလုပ်ရှင်နှင့် အလုပ်သမားတို့အကြား ဤသဘောတူစာချုပ်နှင့် စပ်လျဉ်း၍ အငြင်းပွားမှု တစ်စုံတစ်ရာ ဖြစ်ပေါ်လာပါက စာချုပ်ဝင် နှစ်ဦးနှစ်ဖက် ချစ်ခင် ငြိမ်းချမ်းသော နည်းလမ်းဖြင့် ညှိနှိုင်းဖြေရှင်းရမည်။

၁၀-၂ အလုပ်ရှင်နှင့် အလုပ်သမားတို့အကြား ဤသဘောတူစာချုပ်နှင့် စပ်လျဉ်း၍အငြင်းပွားမှု တစ်စုံတစ်ရာဖြစ်ပေါ်လာပါက၊ စာချုပ်ဝင်နှစ်ဦးနှစ်ဖက် ငြိမ်းချမ်းသော နည်းလမ်းဖြင့် ညှိနှိုင်းဖြေရှင်းရမည်။ အငြင်းပွားမှုအားငြိမ်းချမ်းစွာဖြေရှင်းမရပါက ဥပဒေနှင့်အညီ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏အဆုံးအဖြတ်ကို ခံယူရမည်။

၁၀-၃ ခုံရုံးတည်နေရာကို လုပ်ငန်းတည်နေရာဒေသဖြစ်သော တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့ဟု နှစ်ဦးသဘောတူ သတ်မှတ်ပါသည်။

၁၀-၄ အငြင်းပွားမှုကိုဖြေရှင်းရာတွင် အသုံးပြုသည့် ဘာသာစကားမှာ မြန်မာဘာသာစကားဖြစ်သည်။

၁၁။ စာချုပ်အားပြင်ဆင်ခြင်း

၁၁-၁ ဤသဘောတူစာချုပ်ကို ပြင်ဆင်လိုပါက နှစ်ဦးနှစ်ဘက်ညှိနှိုင်း၍ စာဖြင့်ရေးသားပြင်ဆင်နိုင်သည်။ ယင်းပြင်ဆင်ချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ ခွင့်ပြုချက် ရယူဆောင်ရွက် -ရမည်။

၁၂။ စာချုပ်ရပ်စဲခြင်း

၁၂-၁ ဤသဘောတူစာချုပ်အား အောက်ဖော်ပြပါအကြောင်းတစ်ရပ်ကြောင့်ဖြစ်စေ၊ တစ်ခုထက်ပိုသော အကြောင်းများကြောင့်ဖြစ်စေ ဖြစ်ပေါ်လာပါက ရပ်စဲနိုင်သည်။

(က) စာချုပ်ဝင်များ နှစ်ဖက်အပြန်အလှန်သဘောတူညီချက်ဖြင့်ရပ်စဲခြင်း၊

(ခ) အလုပ်သမားသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များကိုဆက်လက် အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန် မစွမ်းဆောင်နိုင်တော့ခြင်း၊

(ဂ) အလုပ်သမားသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက် တစ်ရပ်ရပ်အား ချိုးဖောက်ခြင်း။

(ဃ) မလွန်ဆန်နိုင်သည့်ဖြစ်ရပ် ဖြစ်ပေါ်ခြင်းကာလသည် တစ်ဆက်တည်း (၆)လထက် ကျော်လွန်ဖြစ်ပွားနေခြင်း။

(င) ဤမြေငှားရမ်းခြင်း စာချုပ်သည် လုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ကိုင်ခွင့်ရသူတို့၏ BOT စာချုပ်၏ အစိတ်အပိုင်းတစ်ခုဖြစ်သည့် အားလျော်စွာ အဆိုပါ BOT စာချုပ်မှာ ဆက်လက် အကောင် အထည်ဖော် ဆောင်ရွက်နိုင်ခြင်း မရှိတော့ပါက ဤစာချုပ်မှာလည်း ရပ်စဲသွားခြင်း၊

(စ) အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့မှစ၍ လုပ်ငန်းများ စတင် ဆောင်ရွက်ရမည်ဖြစ်သော်လည်း တည်ဆောက်ရေးလုပ်ငန်းများကို လက်မှတ်ရေးထိုးသည့် နေ့မှစ၍ (၃၆၅)ရက်အတွင်း လုံးဝစတင်လုပ်ကိုင်မှုမရှိခြင်း။

၁၂-၂ ဤစာချုပ်ရပ်စဲပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အကြောင်းအရာ ပြည့်စုံစွာဖော်ပြလျက်တင်ပြရမည်။

## ၁၃။ မြေနှင့်အဆောက်အဦးများ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၁၃-၁ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ ငှားရမ်းကာလ ကုန်ဆုံးသည့် အခါဖြစ်စေ၊ သက်တမ်းတိုးမြှင့်သည့် ကာလကုန်ဆုံးသည့်အခါဖြစ်စေ (သို့မဟုတ်) ငှားရမ်းခြင်း ရပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့သက်တမ်းကုန်ဆုံးသည့်နေ့ (သို့မဟုတ်)ရပ်စဲသည့်နေ့မှ ရက်ပေါင်း (၃၀)အတွင်း ယင်းမြေပေါ်ရှိ အဆောက်အဦးအပါအဝင် ယင်းနှင့်ဆက်စပ်နေသော ပစ္စည်းများ အားလုံး၊ ယင်းပစ္စည်းများတွင်တပ်ဆင်မည့် ပစ္စည်းကိရိယာများအပါအဝင်၊ အားလုံးကိုကောင်းမွန်စွာပုံမှန် အသုံး ပြုနိုင်သည့် အခြေအနေအတိုင်း အငှားချထားသူသို့ အဖိုးစားနား တစ်စုံတစ်ရာ မပါရှိပဲ ပြန်လည် လွှဲပြောင်း ပေးအပ်စေရမည်။

## ၁၄။ မြေနှင့်ဆောက်အဦးများသို့ ပြန်လည်ဝင်ရောက်ပိုင်ခွင့်

၁၄-၁ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါစည်းကမ်းချက် တစ်ရပ်ရပ်ကိုဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်ပါက အငှားချထားသူက ယင်းကဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာဆောင်ရွက်ရန် အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာဆောက်ရွက်ရန် ဆက်လက်ပျက်ကွက် နေပါက အငှားချထားသူသည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုထားသည့် မြေနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦးများ သို့ ပြန်လည်ဝင်ရောက်၍ လက်ဝယ်ရယူခွင့်ရှိသည်။ ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် အငှားချထားသူက အငှားချထားခြင်းခံရသူထံမှ ငှားရမ်းခ (သို့မဟုတ်) ပစ္စည်းဆုံးရှုံးမှုအတွက် လျော်ကြေး တောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

## ၁၅။ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းခြင်း

၁၅-၁ အငှားချထားခြင်းခံရသူသည်ဤသဘောတူစာချုပ်ပါ ငှားရမ်းအသုံးပြုခွင့်ရသည့် မြေဧရိယာတစ်ခုလုံးကို မြန်မာနိုင်ငံ၏ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ကာကွယ်စောင့်ရှောက်ရမည်။

၁၅-၂ အငှားချထားခြင်းခံရသူသည် ငှားရမ်းအသုံးပြုခွင့်ရရှိသည့် မြေဧရိယာပတ်ဝန်းကျင်၏ ရေထု၊ လေထုများအား သတ်မှတ်ထားသည့် စံနှုန်းများထက်ကျော်လွန်၍ ညစ်ညမ်းမှုမရှိအောင်ထိန်းသိမ်းခြင်း၊ တောတောင် ရေမြေ ဂေဟစနစ်များ မထိခိုက်မပျက်စီးအောင် ကာကွယ်ထိန်း သိမ်းစောင့်ရှောက်ခြင်းတို့ကို ပြုလုပ်ရမည်။

၁၅-၃ အငှားချထားခြင်းခံရသူသည် ရေဆိုးစွန့်ပစ်ခြင်း၊ စွန့်ပစ်အမှိုက်များနှင့်အညစ်အကြေးများကို စနစ်တကျ သိမ်းဆည်းရန် စီမံဆောင်ရွက်ခြင်း၊ သန့်စင်စနစ်များဖြင့် ဆောင်ရွက်ခြင်းတို့ကို အမြဲမပြတ်ဆောင်ရွက်ကာ သဘာဝပတ်ဝန်းကျင်အား မထိခိုက်အောင် ထိန်းသိမ်းစောင့်ရှောက်ရမည်။

## ၁၆။ သယံဇာတတွေ့ရှိခြင်း

၁၆-၁ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းအတွင်း အငှားချထားသည့် မြေပေါ်မြေအောက်မှ သယံဇာတပစ္စည်းများ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းသမိုင်းဝင်ပစ္စည်းများ၊ ဓါတ်သတ္တုများ၊ ရေနံ ၊ ဓာတုဆိုင်ရာပစ္စည်းများ အပါအဝင် အဖိုးတန်သော သဘာဝအရင်းအမြစ်များ တွေ့ရှိပါက လုပ်ငန်း ဆောင်ရွက်မှုကို ခေတ္တရပ်ဆိုင်းပြီး အငှားချထားသူထံ သင့်ရာနည်းဖြင့် ချက်ချင်း အကြောင်းကြား အသိပေးရမည်။ ထိုပစ္စည်းများကို နိုင်ငံတော်ကပိုင်ဆိုင်ပြီး နိုင်ငံတော်ကခွင့်ပြုလျှင် သုံးစွဲခွင့်ပြုသူနှင့်သက်ဆိုင်ရာအဖွဲ့အစည်းက လွတ်လပ်စွာတူးဖော်ရယူခွင့်ရှိစေရမည်

## ၁၇။ စာချုပ်သက်တမ်းနှင့်သက်တမ်းတိုးမြှင့်ခြင်း

၁၇-၁ ဤမြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်တို့သည် တစ်ခုနှင့်တစ်ခုအပြန်အလှန် အကျိုးသက်ရောက်မှုရှိသောကြောင့် သဘောတူစာချုပ်နှစ်ခုလုံး၏ သက်တမ်းမှာအပြီးသတ်လက်မှတ် ရေးထိုးသည့် ( - - )မှစ၍ စာချုပ်၏ အကျိုးသက်ရောက်သောရက်ကို စတင်သတ်မှတ်ပါသည်။

၁၇-၂ စာချုပ်များ၏ သက်တမ်း တိုးမြှင့်လိုပါက အငှားချထားခြင်းခံရသူသည် အငှားချထားသူထံ ယခုစာချုပ်၏ သက်တမ်းမကုန်ဆုံးမီ အနည်းဆုံး (၆) လကြိုတင်၍ သက်တမ်းတိုးမြှင့်ရန် စာဖြင့်ရေးသား လျှောက်ထားနိုင်သည်။

၁၈-၃ စာချုပ်သက်တမ်း တိုးမြှင့်ခြင်းကို တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် (၂)ကြိမ်အထိ သက်တမ်းတိုး မြှင့်နိုင်သ သက်တမ်းတိုးမြှင့်မှုကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရယူဆောင်ရွက်ရမ

၁၉။ ဒေသဖွံ့ဖြိုးရေးရန်ပုံငွေ

၁၉-၁ ဤသဘောတူစာချုပ် အပိုဒ် ၁-၃ ပါ နိုင်ငံတကာအဆင့်မီ Diving Resort & Recreati Centre တရားဝင်ဖွင့်လှစ်သည့်နေ့မှစ၍ နှစ်စဉ်ရရှိသည့် အသားတင် အမြတ်ဝင်ငွေများထဲ (၂)ရာခိုင်နှုန်း (သို့မဟုတ်) ကြိုတင်၍ညှိနှိုင်းထားရှိသော တစ်နှစ် လျှင်မြန်မာကျပ်ငွေ စုစုပေါင်း ၂၀,၀၀၀,၀၀၀/- (ကျပ်ငွေသိန်းနှစ်ရာတိတိ)အနက် များရာကို လုပ်ကိုင်ခွင့်ရသူက လူမှုဝန်းကျ ဆိုင်ရာ တာဝန်ယူမှု Corporate Social Responsibility အဖြစ် လုပ်ကိုင်ခွင့်ပြုသူသ ပေးသွင်းရပါမည်။ ယင်းဒေသဖွံ့ဖြိုးရေးရန်ပုံငွေကို (၂)နှစ်လျှင် တစ်ကြိမ် နှစ်ဘက် ညှိနှိုင်းလျှ အတိုး အလျော့ ပြုလုပ်ကြရန် ဖြစ်ပါသည်။

၁၉-၂ လုပ်ကိုင်ခွင့်ပြုသူသည် ပေးသွင်းလာသည့် ဒေသဖွံ့ဖြိုးရေးရန်ပုံငွေဖြင့် ယင်းဒေသတွင် ဆောင်ရွက်သင့်သည့် ဖွံ့ဖြိုးရေး လုပ်ငန်းတစ်ရပ်ရပ်ကို ရွေးချယ်သတ်မှတ်ပြီး လုပ်ကိုင်ခွင့် ခံရသူအာ တာဝန်ပေး၍ လုပ်ဆောင်စေနိုင်သည်။

၂၀။ အသိပေးခြင်း

၂၀-၁ စာချုပ်ဝင် နှစ်ဦးနှစ်ဘက်တို့သည် အောက်ပါဆက်သွယ်ရေးလမ်းကြောင်း အတိုင်းဆက်သွ အကြောင်းကြားရန်ဖြစ်ပါသည်။

(က) အကြောင်းကြားသည့် စနစ်များမှာစာဖြင့်လည်းကောင်း၊ တယ်လီဖုန်း၊ ဖက်(စ်)၊ အီးမေး(လ်) တို့ဖြင့်လည်းကောင်း၊ လူကိုယ်တိုင်တွေ့ဆုံခြင်းဖြင့်လည်းကောင်း၊ အထူး ဆက်သားဖြင့် ဆက်သွယ်၍ လည်းကောင်း အကြောင်းကြားဆက်သွယ်ရန် ဖြစ်ပါသည်။

(ခ) ဆက်သွယ်ရန်လိပ်စာ

<u>အငှားချထားသူ</u>

| | | |
|---|---|---|
| အမည် | - | ဦးတင်သိန်း |
| မှတ်ပုံတင်အမှတ် | - | ၇/တငန (နိုင်)၀၀၆၀၆၇ |
| လိပ်စာ | - | အတွင်းရေးမှူး<br>တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့<br>ထားဝယ်မြို့။ |
| ဖုန်းနံပါတ် | - | (၉၅)-၅၉-၂၃၅၅၆၊ ၀၉-၈၇၆၀၁၅၅ |
| ဖက်(စ်) | - | (၉၅)-၅၉-၂၃၆၀၀ |

အငှားချထားခြင်းခံရသူ

| | | |
|---|---|---|
| အမည် | - | ဦးဝင်းအောင် |
| မှတ်ပုံတင်အမှတ် | - | ၁၂၊ပဇတ(နိုင်)၀၂၈၇၃၂ |
| လိပ်စာ | - | အမှတ် ၁၀၊ အင်းလျားရိပ်သာလမ်း<br>မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| ဖုန်းနံပါတ် | - | (၉၅)-၁-၆၅၇၀၅၀၊ ၀၉-၅၁၄၇၂၀၁ |
| အီးမေး(လ်) | - | winaung66@gmail.com |

၂၁။ အထွေထွေ

၂၁-၁ ဤစာချုပ်နှင့်ပူးတွဲထားသည့် နောက်ဆက်တွဲများသည် ဤစာချုပ်၏တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်

၂၁-၂ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် အထက်ပါစည်းကမ်းချက်များ၊ အချက်အလက်များကို သဘောတူညီကြပြီ ဖြစ်သည့်အလျောက် ၂၀၁၅ခုနှစ်၊ လ၊ ရက်နေ့တွင် အောက်ပ အသိသက်သေများ၏ ရှေ့မှောက်၌ သဘောတူစာချုပ်ချုပ်ဆို၍ လက်မှတ်ရေးထိုးကြပါသည်။

| အငှားချထားသူ | အငှားချထားခြင်းခံရသူ |
|---|---|
| ဦးတင်သိန်း | ဦးဝင်းအောင် |
| အတွင်းရေးမှူး | မန်နေဂျင်းဒါရိုက်တာ |
| ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ | Ameta International Co.Ltd |
| ထားဝယ်မြို့။ | ရန်ကုန်တိုင်းဒေသကြီး |
| ရက်စွဲ။ ။ | ရက်စွဲ။ ။ |

အသိသက်သေများ

| | | | | | |
|---|---|---|---|---|---|
| လက်မှတ် | - | ---------------- | လက်မှတ် | - | ---------------- |
| အမည် | - | ---------------- | အမည် | - | ---------------- |
| မှတ်ပုံတင် | - | ---------------- | မှတ်ပုံတင် | - | ---------------- |
| လိပ်စာ | - | ----------------<br>---------------- | လိပ်စာ | - | ----------------<br>---------------- |
| ရက်စွဲ | - | ---------------- | ရက်စွဲ | - | ---------------- |




Diving Recreation Centre : Floor Layout Plan

AMATA DIVE RESORT

Amata
dive resort

WIND GENERATOR (WSR.V.MS.045)
GREEN ROOF BEYOND
HEAT VENT (WSR.V.MS.048)
SOLAR WATER HEATER SYSTEM (WSR.V.MS.044)
TRELLIS
RECYCLED PLASTIC IMITATION THATCH ROOF (WSR.V.MS.047)
TOP OF ROOF +5420 MM.
RECYCLED PLASTIC IMITATION THATCH ROOF (WSR.V.MS.047)
PLANTER
TRELLIS
TOP OF PLATE LINE +3200 MM.
ROOF SLAB +3200 MM.
CEILING +2700 MM.
SLIDE ROLLING BUG SCREEN OVER POOL
PROJECTION TV BEYOND
D5
D1
OPEN COURTYARD AREA
D1
DAYBED
POOL LOUNGE
BENCH BEYOND
LANTERN
FFL +850 MM.
GRADE LINE +0000 MM.
LED STAR LIGHT (WSR.V.MS.086)
1.2 M DEEP POOL WITH OVER FLOW
OUTDOOR SHOWER
LOCAL STONE FINISH (WSR.V.MS.057)

8190 | 2800 | 4700

15700

WINDSONG RESORT
3-BEDROOM VILLA (MOCK UP)
ELEVATION 1
SCALE

# Beach Villa : Elevation 1

## AMATA DIVE RESORT

Amata dive resort






KANBAWZA BANK
KYAUKTADAR(IBD) BRANCH
No(33-39), Corner of Bank St & Maharbandoola St,
Kyauktada Tsp. Yangon
Ph: (01)373952-53,
Fax: 373962-63

ACCOUNT NO. : 06010906000912101 (USD)
NAME : AMATA INTERNATIONAL CO.,LTD
NRC : 3797/2012-2013
ADDRESS : NO.10,INYA YEIK THAR ROAD , MAYANGONE TSP, YANGON DIVISION

PHONE :

Date : 23 March, 2015

## Statement Of Transaction For The Date Between 01/03/2015 and 20/03/2015

| Date_Time | Description | Debit | Credit | Balance |
|---|---|---|---|---|
| 01/03/2015 | Opening Balance - - | | | 38,341.34 |
| 03/03/2015 | By Cash - Cheque Withdrawal by Cash 00262313 - - | 10,000.00 | | 28,341.34 |
| 03/03/2015 | By Transfer - A/C Transfer - - - Master Settlement (25-2-2015) | | 70.28 | 28,411.62 |
| 03/03/2015 | By Transfer - A/C Transfer - - - Master Settlement (25-2-2015) | | 52.96 | 28,464.58 |
| 03/03/2015 | By Transfer - A/C Transfer - - - Master Settlement (25-2-2015) | | 178.24 | 28,642.82 |
| 05/03/2015 | By Transfer - A/C Transfer - - - VISA Settlement (26-2-2015) | | 586.51 | 29,229.33 |
| 05/03/2015 | By Transfer - A/C Transfer - - - VISA Settlement (26-2-2015) | | 310.21 | 29,539.54 |
| 05/03/2015 | By Transfer - A/C Transfer - - - VISA Settlement (27-2-2015) | | 359.09 | 29,898.63 |
| 05/03/2015 | By Transfer - A/C Transfer - - - VISA Settlement (27-2-2015) | | 60.82 | 29,959.45 |
| 05/03/2015 | By Transfer - A/C Transfer - - - Master Settlement (26-2-2015) | | 164.61 | 30,124.06 |
| 05/03/2015 | By Transfer - A/C Transfer - - - Master Settlement (26-2-2015) | | 96.76 | 30,220.82 |
| 06/03/2015 | To Transfer - Cheque Transfer - 00262314 - - | 4,720.00 | | 25,500.82 |
| 06/03/2015 | To Transfer - A/C Transfer - - - | 2.00 | | 25,498.82 |
| 09/03/2015 | By Transfer - A/C Transfer - - - VISA Settlement (28-2-2015) | | 270.19 | 25,769.01 |
| 09/03/2015 | By Transfer - A/C Transfer - - - VISA Settlement (28-2-2015) | | 80.66 | 25,849.67 |
| 09/03/2015 | By Transfer - A/C Transfer - - - VISA Settlement (1-3-2015) | | 854.28 | 26,703.95 |
| 09/03/2015 | By Transfer - A/C Transfer - - - VISA Settlement (1-3-2015) | | 398.86 | 27,102.81 |
| 09/03/2015 | By Transfer - A/C Transfer - - - VISA Settlement (2-3-2015) | | 284.99 | 27,387.80 |
| 09/03/2015 | By Transfer - A/C Transfer - - - Master Settlement (27-1-3-2015) | | 111.02 | 27,498.82 |
| 09/03/2015 | By Transfer - A/C Transfer - - - Master Settlement (27-1-3-2015) | | 480.44 | 27,979.26 |
| 09/03/2015 | By Transfer - A/C Transfer - - - Master Settlement (27-1-3-2015) | | 230.08 | 28,209.34 |
| 09/03/2015 | By Transfer - A/C Transfer - - - Master Settlement (27-1-3-2015) | | 556.10 | 28,765.44 |
| 09/03/2015 | By Transfer - A/C Transfer - - - Master Settlement (27-1-3-2015) | | 71.29 | 28,836.73 |
| 09/03/2015 | By Transfer - A/C Transfer - - - Master Settlement (27-1-3-2015) | | 77.11 | 28,913.84 |
| 09/03/2015 | By Transfer - A/C Transfer - - - Master Settlement (27-1-3-2015) | | 122.03 | 29,035.87 |
| 09/03/2015 | By Transfer - A/C Transfer - - - Master Settlement (27-1-3-2015) | | 51.94 | 29,087.81 |
| 09/03/2015 | By Transfer - A/C Transfer - - - Master Settlement (27-1-3-2015) | | 52.86 | 29,140.67 |
| 09/03/2015 | By Transfer - A/C Transfer - - - Master Settlement (27-1-3-2015) | | 188.57 | 29,329.24 |
| 09/03/2015 | By Transfer - A/C Transfer - - - Master Settlement (27-1-3-2015) | | 114.17 | 29,443.41 |
| 09/03/2015 | By Transfer - A/C Transfer - - - VISA Settlement (3-3-2015) | | 538.50 | 29,981.91 |

Without Reversal



**Kanbawza Bank Limited.(Tamwe)**
Building No.(24), U Chit Mg Housing, U Chit Mg Road, Tamwe Township, Yangon
Ph : 01-8603923,24,25,26,27,28,29
Fax : 01-8603930,8603931,8603932

**Date : 09 March , 2015**

ACCOUNT NO. : 0751130000096

NAME : AMATA INTERNATIONAL CO-LTD
NRC :
ADDRESS : NO-10, INYA YEIK THA STR,
MAYANGONE
PHONE : 657050,657690,665126,FAX-657050

---

## Statement Of Transaction For The Date Between 15/02/2015 And 09/03/2015

| Date_Time | Description | Withdrawal Amount | Deposit Amount | Balance |
|---|---|---|---|---|
| 15 / 02 / 2015 | Opening Balance | | | 199,749.00 |
| 20 / 02 / 2015 | To Transfer | 100.00 | | 199,649.00 |
| 25 / 02 / 2015 | Online Transfer Credit 06110106100616401 | | 40,000,000.00 | 40,199,649.00 |
| 25 / 02 / 2015 | Online Deposit AMATA INTER'L ,DAW TIN ZAR LWIN, | | 60,000,000.00 | 100,199,649.00 |
| 26 / 02 / 2015 | Online Transfer Debit , 00028561 | 100,000,000.00 | | 199,649.00 |
| 27 / 02 / 2015 | Cash Deposit + | | 104,400,000.00 | 104,599,649.00 |
| 06 / 03 / 2015 | Cash Withdrawal , 00028562 | 10,000,000.00 | | 94,599,649.00 |
| 09 / 03 / 2015 | Closing Balance | | | 94,599,649.00 |

**No. of Withdrawals : 3**
**No. of Deposits : 3**

**Thank You For Banking With Kanbawza Bank Limited.(Tamwe)**

**Please report any descrepencies found on your statement immediately.**
**N.B - Statement will not be sent unless there is a change of transaction.**

**For Kanbawza Bank Limited.(Tamwe**

**Asst: / DY /Manager**



KANBAWZA BANK
TAMWE BRANCH
BLD 24,U CHIT MG HOUSING
U CHIT MG RD,TAMWE
ph: (09)448016322-24

ACCOUNT NO. : 07510307501014001 (MMK)
NAME : AMATA INTERNATIONAL CO-LTD
NRC : , 12/MAGATA(N)002723, 12/MAGATA(N)057286,
ADDRESS : NO-10, INYA YEIK THA STR, , MAYANGONE, YANGON,YANGON DIVISON

PHONE :

Date : 20 March, 2015

## Statement Of Transaction For The Date Between 09/03/2015 and 15/03/2015

| Date_Time | Description | Debit | Credit | Balance |
|---|---|---|---|---|
| 09/03/2015 | Opening Balance - - | | | 94,599,649.00 |
| 10/03/2015 | To Transfer - CHEQUE TRANSFER 130501021 - 00028563 - - | 34,000,000.00 | | 60,599,649.00 |
| 13/03/2015 | By Cash - Cheque Withdrawal by Cash 00028564 - - | 10,000,000.00 | | 50,599,649.00 |
| 15/03/2015 | Closing Balance | | | 50,599,649.00 |
| No. of Debit : 2 | Debit Total | 44,000,000.00 | | |
| No. of Credit : 0 | Credit Total | | 0.00 | |

Thank You For Banking With TAMWE BRANCH

Please report any discrepancies found on your statement immediately.
N.B – Statement will not be sent unless there is a change of transaction.

Asst: / DY Manager



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ 001327

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ......၃၇၉၇.../ ၂၀၁၂-၂၀၁၃

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ......အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက်......

..............................အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်

ကုမ္ပဏီအဖြစ် ၂၀၁၂ နှစ်၊ ......ဒီဇင်ဘာ......လ၊ ...၁၂ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)

(နန်းရီရီသန်း ၊ ညွှန်ကြားရေးမှူး)

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

---

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR

MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ......3797...... of 2012-2013

I hereby certify that ......AMATA INTERNATIONAL COMPANY LIMITED...... is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Nay Pyi Taw this ......TWELFTH...... day of ......DECEMBER, TWO THOUSAND AND TWELVE.

**For Director General**

**( Nang Yi Yi Than, Director )**

Directorate of Investment and Company Administration

# ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ ဒေါ်နီလာဝင်း ( ၁၂/မဂတ (နိုင်) ဝ၅၇၂၈၆ )

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ အမှတ်(၁၀)၊ အင်းလျားရိပ်သာလမ်း၊ မရမ်းကုန်းမြို့နယ် ရန်ကုန်တိုင်းဒေသကြီး။

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ်၊ ၀၁-၆၆၅၁၂၆

(ဃ) ဒါရိုက်တာများ အမည်စာရင်း–

(၁) ဒေါ်သိင်္ဂီဝင်း
၁၂/မဂတ (နိုင်)၀၀၂၇၂၃

မှတ်ချက် ။ (၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်မှတ်ပုံတင်ရက်စွဲ( ၁၂-၀၂-၂၀၀၂ )မှ ( ၁၁-၀၂-၂၀၀၅ )ရက်နေ့အထိ(၃)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထား ရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင်အဆိုပြု တင်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စုဝန်ကြီးဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင်လိုသည့် လုပ်ငန်း ရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင်မှတ်ပုံတင်ရန်အတွက် ဒါရိုက်တာအဖွဲ့(BOD)၏ အထူး အစည်းအဝေး ဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန သို့ လျှောက်ထား ရမည် ။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(မြင့်လွင် ၊ ဒုတိယညွှန်ကြားရေးမှူး)

ထုတ်ပေးသည့်ရက်စွဲ-



FORM VI

# RETURN OF ALLOTMENTS
# THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the allotment is made)

Return of allotment from the 28th of September 2013.

on the 28th of Sep tember, 2013. of the *AMATA INTERNATIONAL COMPANY LIMITED.

Made pursuant to Section 104 (1)

Number of the shares allotted payable in cash 425 Shares

" " " " ..................

Nominal amount of the shares so allotted Ks.42,500,000/- (Fully Paid Up)

" " " " ..................

Amount paid or due and payable on cash such share Ks.100,000/-

" " " " ..................

Number of ordinary shares allotted for a consideration other than cash

Nominal amount to be ordinary shares so allotted ..................

Amount to be treated as paid on each such share ..................

The consideration for which such share have been allotted is as follow : -

---

**NOTE** In making a return of allotments under Section 104 (1) the Myanmar Companies Act., it is to be noted that -

1. When a return include several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

**Presented for filing by :** U Win Aung (Managing Director)

Name, Address and Description of Allotees

| Name & N.R.C No | Address | Description | Number of the shares allotted | |
|---|---|---|---|---|
| | | | Preference | Ordinary |
| U Win Aung 12/Pa Za Ta (Naing) 028732 | No.7(A), Kan Yeik Thar Street, Mayangone Township, Yangon Region. | Merchant | | 275 |
| Daw Nilar Win 12/Ma Ga Ta (Naing) 057286 | No.483/485, No.5th Quarter, Lower Pazuntaung Road, Pazuntaung Township, Yangon Region. | Merchant | | 75 |
| Daw Theingi Win 12/Ma Ga Ta (Naing) 002723 | No.483/485, No.5th Quarter, Lower Pazuntaung Road, Pazuntaung Township, Yangon Region. | Merchant | | 75 |
| | | Total | | 425 |

Signature

Date 28, September, 2013.

Win Aung
Managing Director
Amata International Co., Ltd.

FORM VI

U043?2

# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

( Myanmar Companies Act, See Section 87 )

Name of Company : AMATA INTERNATIONAL COMPANY LIMITED

Presented by : U Win Aung (M.D)

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. U Win Aung | Myanmar 12/Pa Za Ta (Naing) 028732 | No.(7/A), Kan Yeik Thar Street, Mayangone Township, Yangon Region. | Merchant | Managing Director |
| 2. Daw Nilar Win | Myanmar 12/Ma Ga Ta (Naing) 057286 | No.483/485, No.5th Quarter, Lower Pazuntaung Road, Pazuntaung Township, Yangon Region. | Merchant | Director |
| 3. Daw Theingi Win | Myanmar 12/Ma Ga Ta (Naing) 002723 | No.483/485, No.5th Quarter, Lower Pazuntaung Road, Pazuntaung Township, Yangon Region. | Merchant | Director |
| 4. Daw Nay Myat Thu Aung | Myanmar 12/Da Ga Na (Naing)026700 | No.(7/A), Kan Yeik Thar Street, Mayangone Township, Yangon Region. | Merchant | Appointed as Director w.e.f (3-6-2014) |

NOTE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.
(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ............................ and by writing against any former Director's name the the word "dead" "resigned" or as the case may be giving the date of change against the entry.

Signature ..................................................

Dated this 3rd June, 2014. Designation ........Win Aung........

Managing Director
Amata International Co., Ltd.

Form (26)

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

# အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

နှင့်

## သင်းဖွဲ့စည်းမျဉ်းများ



THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

## Memorandum Of Association

*AND*

## Articles Of Association

*OF*

# AMATA INTERNATIONAL COMPANY LIMITED.

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း



၁။ ကုမ္ပဏီ၏အမည်သည် " အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် " ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်းဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းသည်ကျပ် ၁၀၀,၀၀၀,၀၀၀/- ( ကျပ် သန်း တစ် ရာ တိတိ ) ဖြစ်၍ ငွေ ကျပ် ၁၀၀,၀၀၀/-( ကျပ်တစ်သိန်း တိတိ)တန် အစုရှယ်ယာပေါင်း (၁,၀၀၀) ခွဲထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏စည်းမျဉ်းများနှင့်လက်ရှိ တရားဝင်တည်ဆဲဖြစ်နေ သောတရားဥပဒေ ပြဋ္ဌာန်းချက် များနှင့်အညီအထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာဏာ ရှိစေရမည်။

## ၅။ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ

၁။ လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၂။ သစ်တောထွက်ပစ္စည်းနှင့် ထပ်ဆင့်တိုးတန်ဖိုးမြင့် သစ်အခြေခံ ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၃။ တိရစ္ဆာန်ထွက် ကုန်ပစ္စည်းနှင့် တိရစ္ဆာန်အစားအစာရောင်းဝယ်ခြင်း
၄။ ရေထွက်ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၅။ ဓါတ်မြေဩဇာနှင့် ပိုးသတ်ဆေးများရောင်းဝယ်ခြင်း
၆။ ဓာတုဗေဒနှင့် ဓာတ်ဆေးဆိုးဆေးများရောင်းဝယ်ခြင်း
၇။ စက်ရုံသုံးပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများရောင်းဝယ်ခြင်း
၈။ အိမ်သုံးကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၉။ လူသုံးကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၁၀။ ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများနှင့် သုတ်ဆေးများရောင်းဝယ်ခြင်း
၁၁။ လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၁၂။ ယာဉ်နှင့်စက်ကိရိယာနှင့် အပိုပစ္စည်းများရောင်းဝယ်ခြင်း
၁၃။ ကိရိယာတန်ဆာပလာအမျိုးမျိုးရောင်းဝယ်ခြင်း
၁၄။ ဆေးနှင့်ဆေးပစ္စည်းများရောင်းဝယ်ခြင်း
၁၅။ စားသောက်ကုန်နှင့် အထွေထွေကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၁၆။ အထည်အလိပ်နှင့် အဝတ်အထည်များရောင်းဝယ်ခြင်း
၁၇။ စက္ကူ၊ စာရေးကိရိယာနှင့် ဓာတ်ပုံပစ္စည်းများရောင်းဝယ်ခြင်း
၁၈။ ရုံးသုံးပစ္စည်းများနှင့် ပညာရေးအထောက်အကူ ပစ္စည်းများရောင်းဝယ်ခြင်း
၁၉။ လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိပ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊
၂၀။ (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊
၂၁။ တိရိစ္ဆာန်မွေးမြူခြင်းနှင့် တိရိစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊
၂၂။ ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊
၂၃။ ဓါတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရိစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း၊
၂၄။ လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
၂၅။ အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
၂၆။ ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊
၂၇။ လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊
၂၈။ ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊
၂၉။ စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊
၃၀။ လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
၃၁။ အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊
၃၂။ အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊
၃၃။ အေဂျင်စီလုပ်ငန်းအမျိုးမျိုး၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊ အုပ်ချုပ်မှု အတိုင်ပင်ခံများနှင့် အကြံပေး ဝန်ဆောင်မှုလုပ်ငန်းများ၊
၃၄။ ကြော်ငြာနှင့် ကြော်ငြာ ကိုယ်စားလှယ် လုပ်ငန်းများ၊
၃၅။ ဖျော်ဖြေရေးလုပ်ငန်းနှင့် ယင်းနှင့် ပတ်သက်သည့် လုပ်ငန်းများ
၃၆။ ဆေးဝန်ဆောင်မှု လုပ်ငန်းအမျိုးမျိုး၊
၃၇။ သယ်ယူပို့ဆောင်ရေး လုပ်ငန်း၊ (မီးရထားနှင့် လေကြောင်းမှအပ)
၃၈။ ပုံနှိပ်ထုတ်ဝေခြင်း လုပ်ငန်း၊
၃၉။ တိုင်းတာရေးနှင့် စစ်ဆေးရေး လုပ်ငန်း၊
၄၀။ စီမံကိန်းသစ်များ၌ ဖြစ်မြောက်နိုင်စွမ်း ရှိမရှိ လေ့လာခြင်း၊ စီမံကိန်းပုံစံများချမှတ်ခြင်း၊ စီမံကိန်း ကုန်ကျစရိတ်ခန့်မှန်းခြင်းနှင့် တန်ဖိုးတွက်ချက်ခြင်းလုပ်ငန်းများ၊
၄၁။ စာရင်းရေးသွင်းခြင်း၊ စာရင်းစစ်ဆေးခြင်းနှင့် ဥပဒေ အကြံပေး ဝန်ဆောင်မှု လုပ်ငန်းများ၊
၄၂။ ယာဉ်နှင့် စက်ကိရိယာအမျိုးမျိုး ကြံ့ခိုင်ရေးပြုလုပ်ခြင်း၊ မွမ်းမံခြင်းနှင့် ပြင်ဆင်ခြင်းလုပ်ငန်းများ၊
၄၃။ လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ တပ်ဆင်ခြင်း၊ ပြုပြင်ခြင်းနှင့် မွမ်းမံ တည်ဆောက် ခြင်း လုပ်ငန်းများ၊
၄၄။ ဆောက်လုပ်ရေးလုပ်ငန်း
၄၅။ ကျောက်မျက်လုပ်ငန်း
၄၆။ ခရီးသွားလုပ်ငန်း
၄၇။ ဟိုတယ်လုပ်ငန်း
၄၈။ အသေးစား ငွေရေးကြေးရေး လုပ်ငန်း
၄၉။ ပညာရေး ဝန်ဆောင်မှုလုပ်ငန်း အမျိုးမျိုး

၆။ ကုမ္ပဏီမှ သင့်တော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေး အဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတနိုင်ငံတော် အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်း၌ အချိန် ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေ ပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ်၊ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု

